| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | GEP (Myanmar) Co., Ltd. |
| လုပ်ငန်း | - | ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ထိုင်းနိုင်ငံမှ Green Earth Power (Thailand) Co., Ltd. မှ မြန်မာနိုင်ငံတွင် GEP (Myanmar) Co., Ltd. တည်ထောင်ပြီး မကွေးတိုင်းဒေသကြီး၊ မင်းဘူး(စကု)ဒေသတွင် ၂၂၀ $MW_{DC}$ နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံ တည်ဆောက်၍ ၁၇၀ $MW_{AC}$ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ |

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | ကြာချိန် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၁၈-၁၀-၂၀၁၆ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၆-၁၀-၂၀၁၆ | ၂၇-၁၂-၂၀၁၆ | ၆၂ ရက် |
| | (ခ) သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန | ၂၀၁၆ ခုနှစ် မတ်လ ၁ ရက်နေ့ ရက်စွဲဖြင့်ပြုစုပေးသည့် Environmental and Socio-economic Impact Assessment (ESIA) (Revised Edition) အား တင်ပြထားပါသည်။ | | |
| | (ဂ) မြန်မာနိုင်ငံတော် ဗဟိုဘဏ် | ၁၆-၁၂-၂၀၁၆ | ၂၀-၁-၂၀၁၆ | ၃၅ ရက် |
| ၃ | PAT (၃၉/၂၀၁၆) သို့ တင်ပြခြင်း | ၂၄-၁၀-၂၀၁၆ | | |
| ၄ | PAT အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ ပြင်ဆင်တင် ပြရန် အကြောင်းကြားခြင်းပြန်ကြားခြင်း | ၁-၁၁-၂၀၁၆ | | |
| ၅ | ကုမ္ပဏီမှ PATအစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ အဆိုပြုချက်အား ပြန်လည်တင်ပြလာခြင်း | ၁၃-၁၂-၂၀၁၆ | | |
| ၆ | လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှ PAT အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ အဆိုပြုချက်အား ပြန်လည်တင်ပြ လာခြင်း | ၁၅-၁၂-၂၀၁၆ | | |
| ၇ | ကုမ္ပဏီမှ အဆိုပြုလွှာ ပေးပို့ခြင်း | ၁၇-၂-၂၀၁၆ | | |
| ၈ | **စုစုပေါင်း ကြာမြင့်ရက်** | ၆၆ ရက် | | |

ရင်းနှီးမြှုပ်နှံမှုဌာနခွဲ-၄
PAT ၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်မှု

| စဉ် | လုပ်ငန်းအမည် | အမျိုးအစား | PAT အကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ ပြင်ဆင်ရန် လိုအပ်ချက် | ဆောင်ရွက် ပြီးစီးမှု | အလံ အမှတ် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | GEP (Myanmar) Co., Ltd. | ၂၂၀ $MW_{DC}$ နေစွမ်းအင်သုံး ဓာတ်အားပေး စက်ရုံ တည်ဆောက်၍ ၁၇၀ $MW_{AC}$ လျှပ်စစ် ဓာတ်အား ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း | (၃၉/၂၀၁၆) (၂၄-၁၀-၂၀၁၆) | - လုပ်ငန်းဆောင်ရွက်မည့် မြေနှင့် စပ်လျဉ်း၍ ကုမ္ပဏီအမည်ပေါက် ရရှိရန်နှင့် အခြားနည်းဖြင့် မြေ အသုံးပြုခွင့်ရရှိရေး ဆက်လက် ဆောင်ရွက်ရန်။ | ဆောင်ရွက် ပြီး | အလံ(က) |
| | | | | - ချေးငွေသဘောတူစာချုပ် တင်ပြ ရန်နှင့် မြေငှားရမ်းခြင်း စာချုပ် (မူကြမ်း) အား ပြန်လည်စိစစ်၍ ပြည့်စုံစွာ ပြင်ဆင် တင်ပြရန်။ | ဆောင်ရွက် ပြီး | အလံ(ခ) |
| | | | | - ပြည်တွင်း၊ ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းစာရင်း ခွဲခြားတင်ပြ ရန်။ | ဆောင်ရွက် ပြီး | အလံ(ဂ) |
| | | | | - Recycle Plant လုပ်မည့် အစီ အစဉ်တင်ပြရန်။ | ဆောင်ရွက် ပြီး | အလံ (ဃ) |

ကုမ္ပဏီ အမည် - GEP (Myanmar) Co., Ltd.
အဖွဲ့အစည်းပုံသဏ္ဍာန် - ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု
လုပ်ငန်းအမျိုးအစား - ၂၂၀ $MW_{DC}$ နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံ တည်ဆောက်၍ ၁၇၀ $MW_{AC}$ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း
တည်နေရာ - မကွေးတိုင်းဒေသကြီး၊ မင်းဘူးခရိုင်၊ မင်းဘူး(စကု)မြို့နယ်၊ မင်းလှကျင်း ကျေးရွာအုပ်စု၊ ခုတ်ကြီးကွင်း၊ ကွင်းအမှတ်(၁၂၇၃)ရှိမြေ ၇၀၀ ဧက
စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - US$ ၂၉၇ သန်း
ဝန်ဆောင်မှုပေးမည့်စနစ် - ပြည်တွင်း ၁၀၀%
လုပ်ငန်းသက်တမ်း - ၃၀ နှစ်
အရင်းကြေ ကာလ - ၁၆ နှစ် ၅ လ
IRR - ၅.၄၈ %

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၀.၆၇ သန်း |
| ၃ | သွင်းကုန်ခွန် ကင်းလွတ်ခွင့် | ကျပ် ၂,၈၂၀.၅၂ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၁၄,၃၀၈.၁၃ သန်း | ကျပ် ၄၈,၄၆၇.၉၀ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | ကျပ် ၁၁,၉၆၀.၀၀ သန်း | ကျပ် ၂၀,၄၀၅.၈၀ သန်း |
| ၆ | မြေငှားရမ်းခ | | ကျပ် ၁,၂၉၉.၈၉ သန်း |
| ၇ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | ကျပ် ၁,၇၆၉.၀၄ သန်း<br>တစ်နှစ် ဝင်ငွေ ကျပ် ၄.၈ သန်း (ကျပ် လေးဆယ့် ရှစ်သိန်း) ကျော်ပါက အခွန်ပေးရမည့် ပြည်ပဝန်ထမ်း ၄၄ ဦး<br>ကျပ် ၂,၀၃၀.၁၂ သန်း<br>တစ်နှစ် ဝင်ငွေ ကျပ် ၄.၈ သန်း (ကျပ် လေးဆယ့် ရှစ်သိန်း) ကျော်ပါက အခွန်ပေးရမည့် ပြည်ပဝန်ထမ်း ၁၁၇ ဦး |
| ၈ | CSR (၂%) | | ကျပ် ၄,၀၅၀.၈ သန်း |
| ၉ | အလုပ်အကိုင် အခွင့်အလမ်း | | အမြဲတမ်း ပြည်တွင်း ၁၁၇ ဦး<br>ပြည်တွင်းလုပ်သား၁၁၇ဦးအလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ အလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှု လျှော့ချရေးကို အထောက်အကူပြုစေနိုင်ပါသည်။ |
| | | **ကျပ် ၂၉,၀၉၂.၆၅ သန်း** | **ကျပ် ၇၉,၀၂၅.၂၂ သန်း** |
| | | **၁ း ၃** | |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက- ၅(လ)/န-၀၀၃/၂၀၁၇( ၀၈၅ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် မတ်လ ၃ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ထိုင်းနိုင်ငံ Green Earth Power (Thailand) Co., Ltd. မှ မြန်မာနိုင်ငံတွင် GEP (Myanmar) Co., Ltd. တည်ထောင်ပြီး မကွေးတိုင်းဒေသကြီး၊ မင်းဘူး(စကု)ဒေသတွင် ၂၂၀ $MW_{DC}$ နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံ တည်ဆောက်၍ ၁၇၀ $MW_{AC}$ လျှပ်စစ်ဓာတ်အား ထုတ်လုပ် ရောင်းချခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ထိုင်းနိုင်ငံ Green Earth Power (Thailand) Co., Ltd. မှ မြန်မာနိုင်ငံတွင် GEP (Myanmar) Co., Ltd. တည်ထောင်ပြီး မကွေးတိုင်းဒေသကြီး၊ မင်းဘူးခရိုင်၊ မင်းဘူး(စကု)မြို့နယ်၊ မင်းလှကျွင်း ကျေးရွာအုပ်စု၊ ခုတ်ကြီးကွင်း၊ ကွင်းအမှတ် (၁၂၇၃) ရှိ မြေ ၇၀၀ ဧကတွင် ၂၂၀ $MW_{DC}$ နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံ တည်ဆောက်၍ ၁၇၀ $MW_{AC}$ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချခွင့်ပြုပါရန် လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၂၄ ရက်နေ့တွင် ကျင်းပခဲ့သည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၃၉/၂၀၁၆ ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၏ ၂၀၁၆ခုနှစ် ဩဂုတ်လ ၈ ရက်နေ့ ရက်စွဲပါစာဖြင့် တင်ပြရာတွင် လျှပ်စစ်စွမ်းအားဦးစီးဌာနနှင့် Green Earth Power (Thailand) Co., Ltd. တို့အကြား ၂၀၁၃ ခုနှစ် မေလ ၂ ရက်နေ့တွင် နားလည်မှု စာချွန်လွှာ (MOU) လက်မှတ်ရေးထိုးခဲ့ပြီးဖြစ်ပါသည်။ ပြည်ထောင်စုအစိုးရအဖွဲ့၏ ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၁၀ ရက် နေ့တွင် ကျင်းပသော အစည်းအဝေး အမှတ်စဉ် (၂၀/၂၀၁၄) ၏ သဘောတူခွင့်ပြုချက်ဖြင့် ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၁၆ ရက်နေ့တွင် သဘောတူညီမှုစာချွန်လွှာ (MOA) ကို လက်မှတ်ရေးထိုးခဲ့ပြီးဖြစ်ပါသည်။

၃။ အဆိုပြုချက်နှင့်အတူ ပြည်ထောင်စုအစိုးရအဖွဲ့၏ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၅ ရက်နေ့တွင် ကျင်းပသော အစည်းအဝေးအမှတ်စဉ် (၈/၂၀၁၆)၏ သဘောတူခွင့်ပြုချက်ဖြင့် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ မြန်မာ့လျှပ်စစ် ဓာတ်အားလုပ်ငန်းနှင့် GEP (Myanmar) Co., Ltd. တို့အကြား ၂၀၁၆ ခုနှစ် မတ်လ ၂၀ ရက်နေ့တွင် ချုပ်ဆိုသည့် လျှပ်စစ်ဓာတ်အား ဝယ်ယူရေးစာချုပ် (Power Purchase Agreement-PPA) အားတင်ပြထားပါသည်။

၄။ လုပ်ငန်းစီမံကိန်း သက်တမ်းကာလမှာ ၃၀ နှစ်ဖြစ်ပြီး တည်ဆောက်မှုကာလမှာ ၄၈ လ ဖြစ်ပါသည်။

၅။ မြေပိုင်ရှင် AVA Capital Trading Limited နှင့် GEP (Myanmar) Co., Ltd. တို့ ချုပ်ဆိုထားသည့် မြေငှားစာချုပ် (မူကြမ်း) အား တင်ပြထားပါသည်။ မြေငှားရမ်းသက်တမ်းမှာ နှစ် ၃၀ ဖြစ်ပြီး နှစ်စဉ်မြေငှားရမ်းခမှာ အမေရိကန်ဒေါ်လာ ၆၆,၆၆၀(တစ်နှစ်တစ်ဧကလျှင် အမေရိကန်ဒေါ်လာ ၉၅.၂၃ နှုန်း) ဖြစ်ပါသည်။

၆။ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းနှင့် GEP (Myanmar) Co., Ltd. တို့ချုပ်ဆိုသည့် လျှပ်စစ်ဓာတ်အား ဝယ်ယူရေး သဘောတူစာချုပ်(မူကြမ်း) (PPA) ပါ အဓိက အချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) စာချုပ်သက်တမ်းကာလအတွင်း လျှပ်စစ်ဓာတ်အားခအနေဖြင့် တစ်ကီလိုဝပ်နာရီလျှင် အမေရိကန်ဒေါ်လာ ၁၂.၇၅ ဆင့် နှုန်းဖြင့် ချုပ်ဆိုသွားမည်ဖြစ်သည်။ **(အပိုဒ်-၅-၁)**

(ခ) စာချုပ်သက်တမ်း ကာလသည် အဆိုပြုလုပ်ငန်း ပထမအဆင့်၏ ထုတ်လုပ်မှု စတင်သောနေ့ရက်မှ ၃၀ နှစ် အထိဖြစ်ပါသည်။ **(အပိုဒ်-၆-၁)**

(ဂ) စာချုပ်သက်တမ်း တိုးမြှင့်ခြင်းအတွက် နှစ်ဦးနှစ်ဘက် သဘောတူညီချက်အရ တိုးမြှင့်နိုင်ပါသည်။ စာချုပ်သက်တမ်းတိုးမြှင့်လိုပါက ကုမ္ပဏီနှင့် မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းအနေဖြင့် ၂၄လ ကြိုတင်ညှိနှိုင်းရမည်။ **(အပိုဒ်-၆-၃)**

၇။ လုပ်ငန်း၏ စုစုပေါင်း မ,တည်ငွေရင်း ပမာဏမှာ ချေးငွေ US$ ၂၀၉.၀၅ သန်း အပါအဝင် US$ ၂၉၇ သန်း ဖြစ်ပြီး ငွေသား US$ ၇၄.၂၅ သန်းနှင့် စက်နှင့်စက်ပစ္စည်းတန်ဖိုး US$ ၂၂၂.၇၅ သန်းတို့ဖြစ်ပါသည်။ တစ်နှစ်လျှင် အတိုးနှုန်း ၆% ဖြင့် ၁၂ နှစ်အတွင်း ပေးဆပ်မည်ဖြစ်ကြောင်း ချေးငွေပြန်လည်ပေးဆပ်မည့် အစီအစဉ်နှင့်အတူ တင်ပြထားပါသည်။

၈။ လုပ်ငန်းဆောင်ရွက်ရန်အတွက် တည်ဆောက်ရေးကာလတွင် ပြည်ပဝန်ထမ်း ၄၄ ဦးနှင့် ပြည်တွင်းဝန်ထမ်း ၆၀၀ ဦးခန့်ထားမည်ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁,၀၀၀ နှင့် အမြင့်ဆုံး လစာမှာ US$ ၅,၀၀၀ ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းများ၏ လစာနှုန်းထားအား Sub-Contractor နှင့် သဘောတူညီချက်အတိုင်း သတ်မှတ်ပေးမည် ဖြစ်ပါသည်။ လုပ်ငန်းလည်ပတ်မှုကာလအတွင်း ပြည်တွင်းဝန်ထမ်း ၁၁၇ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ US$ ၁၈၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၂,၀၀၀ ဖြစ်ပါသည်။

၉။ အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်သော လျှပ်စစ်ဓါတ်အားကို ဌာနသို့ ၁၀၀% ရောင်းချမည်ဖြစ်ပြီး ထုတ်လုပ်မှုမှာ ပုံမှန်နှစ် (၆) နှစ်မြောက်တွင် ကီလိုဝပ်နာရီသန်းပေါင်း ၃၂၅.၅၅၄ ဖြစ်ပြီး ရောင်းချမည့်ဈေးနှုန်းမှာ တစ်ကီလိုဝပ်နာရီလျှင် US$ ၀.၁၂၇၅ ဖြစ်ပါသည်။

၁၀။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ၆ နှစ်မြောက်တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | | US$ (သန်း) |
|---|---|---|---|
| (က) | ဝင်ငွေ | - | ၄၁.၅၀၈ |
| (ခ) | အသုံးစရိတ် | - | ၃၂.၈၀၆ |
| (ဂ) | အသားတင်အမြတ် | - | ၈.၇၀၂ |

၁၁။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ၆ နှစ်မြောက်တွင် ရရှိမည့်အကျိုးအမြတ်ခန့်မှန်းခြေမှာ ဝင်ငွေခွန် US$ ၂.၉၀၁ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် US$ ၁.၇၉၀ သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏အရင်းကြေကာလမှာ ၁၆ နှစ် ၅ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၅.၄၈% ဖြစ်ပါသည်။

၁၂။ ယင်းအဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများတောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

(၁) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါကြောင်း။

(၂) မြို့နယ်/ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးမှုအတွက် အထောက်အကူဖြစ်ပြီး အလုပ်အကိုင်အခွင့်အလမ်းများ ပေါ်ပေါက်လာနိုင်ပါကြောင်း။

(၃) လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း။

(၄) လုပ်ငန်းဆောင်ရွက်မည့် မြေနေရာသည် မင်းဘူးခရိုင်၊ စကုမြို့နယ်၊ ဇီးအိုင် ကျေးရွာအတွင်း မင်းဘူးမြို့နယ်မှ အနောက်ဘက် (၁.၄) မိုင်အကွာ မင်းဘူး-အမ်းကားလမ်း၏ မြောက်ဘက် (၁)မိုင်နှင့် (၃)ဖာလုံအကွာတွင်ရှိသည့် ဧရိယာ (၈၀၀) ဧကကျယ်ဝန်းသော မြေနေရာဖြစ်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။

(ခ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန**

အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ MSR-Myanmar Survey Research မှ ၂၀၁၆ ခုနှစ် မတ်လ ၁ ရက်နေ့ ရက်စွဲဖြင့်ပြုစုပေးသည့် Environmental and Socio-

economic Impact Assessment (ESIA) (Revised Edition) အား တင်ပြထားပါသည်။

(ဂ) **မြန်မာနိုင်ငံတော် ဗဟိုဘဏ်** **(နောက်ဆက်တွဲ-ခ)**

အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ Green Earth Power (Myanmar) Co., Ltd. အနေဖြင့် Equity အဖြစ် ယူဆောင်လာမည့် အမေရိကန်ဒေါ်လာ (၈၇.၉၅) သန်းအနက် Equity Brought-in မှာ အမေရိကန် ဒေါ်လာ (၃.၃၆၅) သန်းသာ ရှိသဖြင့် Equity တိုးမြှင့်ပြီးမှသာ ချေးငွေအား ပြန်လည်လျှောက်ထားရန် ဖြစ်ပါကြောင်း သဘောထား ပြန်ကြားထားပါသည်။

၁၃။ ငွေကြေးအထောက်အထားအဖြစ် Green Earth Power (Thailand) Co., Ltd. မှ ထိုင်းနိုင်ငံရှိ Kasikorn Bank ၌ ၂၀၁၅ ခုနှစ် ဇွန်လ ၂၉ ရက်နေ့ရက်စွဲဖြင့် US$ ၁၀,၇၄၅,၆၇၀.၇၅ ရှိကြောင်းနှင့် GEP(Myanmar)Co., Ltd. မှ ကမ္ဘောဇဘဏ်(ကျောက်တံတား ဘဏ်ခွဲ)၌ ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၅ ရက်နေ့ ရက်စွဲဖြင့် US$ ၁၄၈,၇၁၆.၂၄၊ ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၄ ရက်နေ့ ရက်စွဲဖြင့် US$ ၁၇၅,၇၅၂.၂၄ ရှိကြောင်းနှင့် ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၁၅ ရက်နေ့ ရက်စွဲဖြင့် US$ ၁၇၀,၇၅၀.၂၄ ရှိကြောင်း တင်ပြထားပါသည်။ GEP (Myanmar) Co., Ltd. အမည်ဖြင့် ၂၀၁၆ ခုနှစ် မတ်လ ၉ ရက်နေ့ရက်စွဲဖြင့် ကမ္ဘောဇဘဏ် (နိုင်ငံတကာဘဏ်ဌာနခွဲ)(Foreign Remittance Department) ၌ နိုင်ငံခြား မ,တည်ငွေရင်းအဖြစ် US$ ၇၅,၀၀၀၊ ၂၀၁၆ ခုနှစ် ဧပြီလ ၇ ရက်နေ့ ရက်စွဲဖြင့် US$ ၇၅,၀၀၀၊ ၂၀၁၆ ခုနှစ် ဧပြီလ ၂၂ ရက်နေ့ ရက်စွဲဖြင့် US$ ၂၀၀,၀၀၀၊ ၂၀၁၆ ခုနှစ် မေလ ၂၇ ရက်နေ့ ရက်စွဲဖြင့် US$ ၆၃၀,၀၀၀၊ ၂၀၁၆ ခုနှစ် ဇွန်လ ၂၇ ရက်နေ့ ရက်စွဲဖြင့် US$ ၉၀၀,၀၀၀၊ ၂၀၁၆ ခုနှစ် ဇူလိုင်လ ၂၈ ရက်နေ့ ရက်စွဲဖြင့် US$ ၅၀၀,၀၀၀၊ ၂၀၁၆ ခုနှစ် စက်တင်ဘာလ ၂၀ ရက်နေ့ရက်စွဲဖြင့် US$ ၆၈၅,၀၀၀နှင့် ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၂၀ ရက်နေ့ရက်စွဲဖြင့် US$ ၃၀၀,၀၀၀ အား ထည့်ဝင်ထားသည့် အထောက်အထားများ တင်ပြထားပါသည်။

၁၄။ GEP (Myanmar) Co., Ltd. မှ ဝန်ထမ်းများအတွက် သက်သာ ချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်မှု အစီအစဉ်နှင့် လူမှုရပ်ရွာအကျိုးပြုမှု အစီအစဉ်အဖြစ် Corporate Social Responsibility အဖြစ် လုပ်ငန်း၏ နှစ်စဉ်အသားတင်အမြတ်ငွေ၏ ၂ % ကို သုံးစွဲမည်ဖြစ်ပြီး Corporate Social Responsibility-CSR Plan အသေးစိတ်အား တင်ပြထားပါသည်။

၁၅။ မီးဘေးလုံခြုံရေးအစီအမံအနေဖြင့် စက်ပစ္စည်းများ၊ လျှပ်စစ်ဝါယာကြိုးထားရှိမှု အစီအမံများကို စနစ်တကျ ထားရှိမည်ဖြစ်ပြီး ကျွမ်းကျင်ဝန်ထမ်းများဖြင့် ခြောက်လတစ်ကြိမ် စစ်ဆေးမည်ဖြစ်ပြီး လောင်စာများကိုလည်း စနစ်တကျထားရှိမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။

၁၆။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစား ခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၇။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ပုဂ္ဂလိကမြေ အသုံးချခွင့်နှင့်စပ်လျဉ်း၍ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၁၇ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၃/၂၀၁၆) ကြိမ် မြောက်အစည်းအဝေး၊ ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၃၀ ရက်နေ့တွင် ကျင်းပသော စီးပွားရေးရာ ကော်မတီ၏ (၁၆/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးနှင့် ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၂ ရက်နေ့ တွင် ကျင်းပသော ပြည်ထောင်စုအစိုးရအဖွဲ့၏ (၃/၂၀၁၇) ကြိမ်မြောက် အစည်းအဝေးတို့မှ ခွင့်ပြု ပြီးဖြစ်ပါသည်။

၁၈။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Convalt Energy Myanmar Co., Ltd. တည်ထောင်ပြီး (၁၅၀) မဂ္ဂါဝပ်စီရှိသော နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံ များ တည်ဆောက်ပြီး လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား ခွင့်ပြုမိန့် အမှတ်- ၁၁၉၃/၂၀၁၆ (၁၁-၁၁-၂၀၁၆) ဖြင့် ထုတ်ပေးခဲ့ပြီးဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မကွေးတိုင်းဒေသကြီး၊ မင်းဘူးခရိုင်၊ မင်းဘူး (စကု) မြို့နယ်၊ မင်းလှကျင်း ကျေးရွာအုပ်စု၊ ခုတ်ကြီးကွင်း၊ ကွင်းအမှတ် (၁၂၇၃) ရှိ မြေ ၇၀၀ ဧကအတွက် မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲရေး ဗဟိုကော်မတီ၏ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၁၉ ရက်နေ့တွင် ကျင်းပသော ၄/၂၀၁၇ ကြိမ်မြောက် အစည်း အဝေးအရ အစိုးရက ခွင့်ပြုသော ဥပဒေနှင့်ညီညွတ်သည့် အခြားလုပ်ငန်းများ အတွက် လုပ်ပိုင်ခွင့်၊ အသုံးပြုခွင့်ပြုသော ခွင့်ပြုမိန့် ပုံစံ-၁၅ အား ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၂၀ ရက်နေ့ရက်စွဲပါစာဖြင့် ထုတ်ပေးထားသည့် အထောက်အထား တင်ပြ ထား ကြောင်း စိစစ်တင်ပြအပ်ပါသည်။

(ဂ) GEP (Myanmar) Co., Ltd. ၏ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ပထမအဆင့် စီမံကိန်းကာလအတွက် Krung Thai Bank Public Company Limited နှင့် Export-Import Bank of Thailand (EXIM Thailand) တို့ထံမှ စုစု ပေါင်း အမေရိကန်ဒေါ်လာ ၄၈ သန်း ချေးငွေရယူမည်ဖြစ်ကြောင်း တင်ပြထားပါ သည်။ မြန်မာနိုင်ငံတော် ဗဟိုဘဏ်မှ "Equity အဖြစ် ယူဆောင်လာမည့် အမေရိကန် ဒေါ်လာ (၈၇.၉၅) သန်း အနက် Equity Brought-in မှာ အမေရိကန်ဒေါ်လာ (၃.၃၆၅) သန်းသာ ရှိသဖြင့် Equity တိုးမြှင့်ပြီးမှသာ ချေးငွေအား ပြန်လည် လျှော့ထားရန် ဖြစ်ပါကြောင်း" သဘောထားပြန်ကြားထားပါသည်။ အဆိုပြုလုပ်ငန်း စုစု ပေါင်း ရင်းနှီးမြှုပ်နှံမှု အမေရိကန် ဒေါ်လာ ၂၉၇ သန်းတွင် ကိုယ်ပိုင်ငွေ အမေရိကန်

ဒေါ်လာ ၈၇.၉၅ သန်း (၃၀%) နှင့် ချေးငွေပမာဏ အမေရိကန်ဒေါ်လာ ၂၀၉.၀၅ သန်း (၇၀%) ပါဝင်ကြောင်း ဖော်ပြထားရာ ဆက်လက် ချေးယူမည့်ငွေပမာဏနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံတော် ဗဟိုဘဏ်သို့ ဆက်လက်တင်ပြသဘောထား တောင်းခံရန် လိုအပ်မည်ဖြစ်ကြောင်း စိစစ်တင်ပြအပ်ပါသည်။

(ဃ) အဆိုပြုလုပ်ငန်း၏ စီမံကိန်းကာလသည် စုစုပေါင်း ၄ နှစ် ကြာမြင့်မည်ဖြစ်ပြီး အဆင့် ၄ ဆင့်ဖြင့် အောက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားမည် ဖြစ်ပါသည်-

| | | |
|---|---|---|
| ပထမအဆင့် | (၄၀)မဂ္ဂါဝပ် | (၁၂)လ |
| ဒုတိယအဆင့် | (၄၀)မဂ္ဂါဝပ် | (၁၂)လ |
| တတိယအဆင့် | (၄၀)မဂ္ဂါဝပ် | (၁၂)လ |
| စတုတ္ထအဆင့် | (၅၀)မဂ္ဂါဝပ် | (၁၂)လ |
| စုစုပေါင်းတပ်ဆင်အင်အား | ၁၇၀ မဂ္ဂါဝပ် (အေစီ) | |

(င) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၉။ သို့ဖြစ်ပါ၍ ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ထိုင်းနိုင်ငံ Green Earth Power (Thailand) Co., Ltd. မှ မြန်မာနိုင်ငံတွင် GEP (Myanmar) Co., Ltd. တည်ထောင်ကာ မကွေးတိုင်းဒေသကြီး၊ မင်းဘူး(စကု)ဒေသတွင် ၂၂၀ $MW_{DC}$ နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံ တည်ဆောက်၍ ၁၇၀ $MW_{AC}$ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခွင့်ပြုပါရန် လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

အကြောင်းအရာ။ ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ထိုင်းနိုင်ငံ Green Earth Power (Thailand) Co., Ltd. မှ မြန်မာနိုင်ငံတွင် GEP (Myanmar) Co., Ltd. တည်ထောင်ကာ မကွေးတိုင်း ဒေသကြီး၊ မင်းဘူး(စကု)ဒေသတွင် ၂၂၀ $MW_{DC}$ နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံ တည် ဆောက်၍ ၁၇၀ $MW_{AC}$ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခွင့်ပြုပါရန် အဆိုပြုတင်ပြ လာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - GEP (Myanmar) Co., Ltd.<br>Mr. Supasit Pokinjaruras |
| ၂။ | အဖွဲ့အစည်းပုံသဏ္ဍာန် | - ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>GEP (Myanmar) Co., Ltd.<br>(ထိုင်းနိုင်ငံ) ၁၀၀% |
| ၃။ | လုပ်ငန်းအမျိုးအစား | - မကွေးတိုင်းဒေသကြီး၊ မင်းဘူးဒေသတွင် ၂၂၀ $MW_{DC}$ နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံတည်ဆောက်၍ ၁၇၀ $MW_{AC}$ လျှပ်စစ်ဓာတ်အား ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း |
| ၄။ | တည်နေရာနှင့်<br>မြေအကျယ်အဝန်း | - မကွေးတိုင်းဒေသကြီး၊ မင်းဘူးခရိုင်၊ မင်းဘူး(စကု)မြို့နယ်၊ မင်းလှကျင်း ကျေးရွာအုပ်စု၊ ခုတ်ကြီးကွင်း၊ ကွင်းအမှတ်(၁၂၇၃)ရှိမြေ ၇၀၀ ဧက |
| | မြေပိုင်ရှင် | - AVA Capital Trading Co., Ltd. |
| | မြေငှားရမ်းခ | - အမေရိကန် ဒေါ်လာ ၆၆,၆၆၀<br>(တစ်နှစ်တစ်ဧကလျှင် အမေရိကန် ဒေါ်လာ ၉၅.၂၃ နှုန်း) |
| ၅။ | စုစုပေါင်း မ,တည်ငွေရင်း | **စုစုပေါင်း**<br>**US$(million)** |
| | ငွေသား | ၇၄.၂၅ |
| | စက်ပစ္စည်းကိရိယာ(ပြည်ပဝယ်) | ၂၂၂.၇၅ |
| | **စုစုပေါင်း** | **၂၉၇.၀၀**<br>(ချေးငွေ US$ ၂၀၉.၀၅ သန်း ပါဝင်ပါသည်။) |
| ၆။ | ဝင်ငွေရရှိမှုအခြေအနေ(ပုံမှန်နှစ်) | **ထုတ်လုပ်မည့်လျှပ်စစ်ဓာတ်အား (kWh/year)**: ၃၂၅,၅၅၃,၇၁၁<br>**ဈေးနှုန်း (US$/kWh)**: ၀.၁၂၇၅<br>**ရရှိမည့်ဝင်ငွေ US$(million)**: ၄၁.၅၀၈ |
| ၇။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၁၀၀% |
| ၈။ | လုပ်ငန်း သက်တမ်း | - ၃၀ နှစ် |
| ၉။ | တည်ဆောက်ရေးကာလ | - ၄ နှစ် |

| | | | |
|---|---|---|---|
| ၁၀။ | ဝန်ထမ်းအင်အား | **Construction Period** | **Operation Period** |
| | | - ၄၄ ဦး (ပြည်ပ)<br>အမြင့်ဆုံးလစာ-US$ ၅,၀၀၀<br>အနိမ့်ဆုံးလစာ -US$ ၁,၀၀၀ | - |
| | | - ၆၀၀ ဦး (ပြည်တွင်း)<br>Sub-Contractor နှင့် သဘောတူညီချက်အတိုင်း လစာများ သတ်မှတ်ပေးမည် ဖြစ်ပါသည်။ | - ၁၁၇ ဦး (ပြည်တွင်း)<br>အမြင့်ဆုံးလစာ-US$ ၂,၀၀၀<br>အနိမ့်ဆုံးလစာ- US$ ၁၈၀ |
| ၁၁။ | ပုံမှန်နှစ်တွင် | | |
| | ကုမ္ပဏီ၏ဝင်ငွေ | - US$ ၄၁.၅၀၈ သန်း | |
| | အသုံးစရိတ် | - US$ ၃၂.၈၀၆ သန်း | |
| | အသားတင်အမြတ် | - US$ ၈.၇၀၂ သန်း | |
| ၁၂။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် (ပုံမှန်နှစ်) | | |
| | ဝင်ငွေခွန် | - US$ ၂.၉၀၁ သန်း | |
| | ကုန်သွယ်လုပ်ငန်းခွန် | - US$ ၂.၀၇၅ သန်း | |
| ၁၃။ | အရင်းကြေကာလ | - ၁၆ နှစ် ၅ လ | |
| | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၅.၄၈ % | |
| ၁၄။ | လျှပ်စစ်ဓာတ်အား (နှစ်စဉ်) | - ၇၃၀,၀၀၀ kWh/ year | |
| ၁၅။ | CSR | - Corporate Social Responsibility (CSR) အား အသားတင်အမြတ်၏ ၂% ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ | |

နောက်ဆက်တွဲ(က)



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့
# မကွေးမြို့

စာအမှတ်၊ ၅ / ၄၃ - ၃၂၀ (၄) / ဦး ၆
ရက်စွဲ၊ ၂၀၁၆ခုနှစ်၊ ဒီဇင်ဘာလ ၂၇ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့



အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ ယင်း၏၂၆.၁၀.၂၀၁၆ ရက်စွဲပါစာအမှတ် မရက-၅(လ)/န-၀၀၃/၂၀၁၆(၄၉၂)

၁။ ထိုင်းနိုင်ငံ Green Earth Power (Thailand) Co;Ltdမှ မြန်မာနိုင်ငံတွင် GEP (Myanmar) Co., Ltd. တည်ဆောက်ကာ ရာနှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုအဖြစ် မင်းဘူးခရိုင်၊ မင်းဘူး (စကု) ဒေသတွင် ၂၂၀ မဂ္ဂါဝပ် နေရောင်ခြည်စွမ်းအင်သုံးလျှပ်စစ်ဓာတ်အားပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချခွင့်ပြုရန် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှ တစ်ဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါကြောင်း၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေဖြင့်လည်း လုပ်ငန်းသစ်များဆောင်ရွက်ရာတွင် တိုင်းဒေသကြီးအစိုးရ အဖွဲ့၏ ထောက်ခံချက်ကို အထူးအလေးထားစဉ်းစားပါကြောင်း၊ ထို့အတွက်ကြောင့် တိုင်းဒေသကြီး အစိုးရအဖွဲ့ ဝန်ကြီးချုပ် (သို့မဟုတ်) ဝန်ကြီးချုပ်မှ တာဝန်ပေးအပ်ခြင်းခံရသူ တစ်ဦးဦးက အောက်ပါအချက်အလက်များအပေါ်စိစစ်၍ ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသဖြင့် မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့ သယံဇာတ၊ သဘာဝပတ်ဝန်းကျင်၊ လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီး ခေါင်းဆောင်သည့် သက်ဆိုင်ရာဌာနဆိုင်ရာများ ပါဝင်သောအဖွဲ့ဖြင့် ကွင်းဆင်းစစ်ဆေးခဲ့ရာ အောက်ပါအတိုင်းစစ်ဆေးတွေ့ရှိခဲ့ပါသည်-

(က) **ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည်နောင်ပြုလုပ်မည့်(သို့မဟုတ်)လက်ရှိမြို့ပြ စီမံကိန်းကို ထိခိုက်မှုရှိ/မရှိ၊**

ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည်နောင်ပြုလုပ်မည့်(သို့မဟုတ်)လက်ရှိမြို့ပြ စီမံကိန်းကို ထိခိုက်နိုင်မှုမရှိပါ၊

(ခ) **မြို့နယ်/ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးမှုအတွက် ထောက်အကူဖြစ်/မဖြစ် ၊**

မြို့နယ်/ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးမှုအတွက် ထောက်အကူဖြစ်ပြီး အလုပ်အကိုင်အခွင့်အလမ်းများ ပေါ်ပေါက်လာနိုင်ပါသည်၊

(ဂ) **ဖော်ပြပါနေရာအား အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ / မရှိ ၊**

လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်၊

(ဃ) **လုပ်ငန်းဆောင်ရွက်မည့် မြေနေရာဟုတ် / မဟုတ် ၊**

လုပ်ငန်းဆောင်ရွက်မြေနေရာသည် မင်းဘူးခရိုင်၊ စကုမြို့နယ်၊ ဇီးအိုင်ကျေးရွာအတွင်း မင်းဘူးမြို့နယ်မှ အနောက်ဘက် (၁.၄) မိုင်အကွာ မင်းဘူး-အမ်းကားလမ်း၏ မြောက်ဘက်(၁)မိုင်နှင့် (၃)ဖာလုံအကွာတွင်ရှိသည့် ဧရိယာ (၈၀၀)ဧကကျယ်ဝန်းသောမြေနေရာဖြစ်ပါသည်။

၂။ GEP (Myanmar) Co., Ltd. မှ မင်းဘူးခရိုင်၊ မင်းဘူး (စကု) ဒေသတွင် ၂၂၀ မဂ္ဂါဝပ် နေရောင်ခြည်စွမ်းအင်သုံး လျှပ်စစ်ဓာတ်အားပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခွင့်ပြုရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ညှိနှိုင်းချက်နှင့် ပတ်သက်ပြီး (၂၂.၁၂.၂၀၁၆) ရက်နေ့တွင်ကျင်းပပြုလုပ်သည့် မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၄၇/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ် (၃၄) အရ ကန့်ကွက်ရန်မရှိကြောင်း ဆုံးဖြတ်ထားရှိပါသဖြင့် လိုအပ်သလို ဆက်လက်ဆောင်ရွက်နိုင်ရန် ပေးပို့ပါသည်။

(signature) ၂၇.၁၂.၂၀၁၆

ဝန်ကြီးချုပ် (ကိုယ်စား)
မြင့်ဇော်
သယံဇာတ၊ သဘာဝပတ်ဝန်းကျင်၊ လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီး

မိတ္တူကို

လှည့်လည်စာတွဲ
ရုံးလက်ခံ

နောက်ဆက်တွဲ(ခ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

စာအမှတ်၊ အက်ဖ်အီး - ၃၉/ ၇၀

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီလ၂၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၆.၁၂.၂၀၁၆) ရက်စွဲပါ စာအမှတ်၊ မရက-၅(လ)/န-၀၀၃/၂၀၁၆(၅၆၇)

Green Earth Power (Myanmar) Co., Ltd သည် ထိုင်းနိုင်ငံ Greeen Earth Power (Thailand) Co., Ltd က တည်ထောင်ထားသည့် ၁၀၀% နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ကုမ္ပဏီဖြစ်ပြီး မကွေးတိုင်း၊ မင်းဘူးခရိုင်၊ မင်းဘူး(စကု) မြို့နယ်၊ မင်းလှကျင်းကျေးရွာအုပ်စု၊ ခုတ်ကြီးကွင်း၊ ကွင်းအမှတ်(၁၂၇၃)ရှိ မြေ ၇၀၀ ဧကတွင် (၂၂၀) မဂ္ဂါဝပ်နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံတည်ဆောက်၍ လျှပ်စစ်ဓာတ်အားပေးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် Krung Thai Bank Public Com., Ltd နှင့် Export-Import Bank of Thailand ( EXIM Thailand) တို့ထံမှ ချေးငွေအမေရိကန်ဒေါ်လာ (၄၈) သန်း ချေးယူရန် တင်ပြလာခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က သဘောထား မှတ်ချက် တောင်းခံလာခြင်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည်-

"Green Earth Power (Myanmar) Co., Ltd အနေဖြင့် Equity အဖြစ် ယူဆောင်လာမည့် အမေရိကန်ဒေါ်လာ (၈၇.၉၅) သန်းအနက် Equity Brought-in မှာ အမေရိကန်ဒေါ်လာ (၃.၃၆၅) သန်းသာ ရှိသဖြင့် Equity တိုးမြှင့်ပြီးမှသာ ချေးငွေအား ပြန်လည်လျှောက်ထားရန် ဖြစ်ပါသည်"

ဒုတိယဥက္ကဋ္ဌ ( ကိုယ်စား )

( ဝင်းသော်၊ ညွှန်ကြားရေးမှူးချုပ် )

မိတ္တူကို

ဥက္ကဋ္ဌရုံး၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ဒုတိယဥက္ကဋ္ဌ(၁)၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်

Green Earth Power (Myanmar) Co., Ltd

ရုံးလက်ခံ/ မျှောစာတွဲ

# GEP (Myanmar) Co., Ltd.

| | |
|---|---|
| Promoter Letter | |
| Business Plan | |
| Form I - MIC Proposal | |
| Annex 1 | Investment Plan |
| Annex 2 | Annual Estimated Revenue |
| Annex 3 | List of Material to be imported /Locally purchased |
| Annex 4 | Schedule of personal requirement |
| Annex 5 | Projected statement of Income |
| Annex 6 | Projected statement of cash flow |
| Annex 7 | Schedule of debt servicing |
| Annex 8 | Internal Rate of Return (IRR) |
| Annex 9 | Recoupment Period |
| Annex 10 | Benefit to Myanmar |
| Annex 11 | Staff Welfare Plan |
| Annex 12 | CSR Plan |
| Annex 13 | Fire Prevention System |
| Annex 14 | DICA permit/application document |
| Annex 15 | Memorandum of Association and Article of Association |
| Annex 16 | Promoter's profile |
| Annex 17 | Majority Shareholder's Article of Association |
| Annex 18 | Majority Shareholder's Certificate of Registration |
| Annex 19 | Bank's reference letter and Bank Statements |
| Annex 20 | Audited financial statements |
| Annex 21 | Draft loan agreement |
| Annex 22 | Power Purchase Agreement |
| Annex 23 | Lease agreement |
| Annex 24 | Land title document |
| Annex 25 | Layout of the Project/Location detail |
| Annex 26 | Undertaking for employees 'personal income tax and social security contribution |

VDB | Loi

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

စာအမှတ်၊လျှပ်စစ်-၂/(မင်းဘူး)(၁၃၁၁၇)/၂၀၁၆

ရက်စွဲ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ ၁၅ ရက်

MY-1532
18/1/17

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **မကွေးတိုင်းဒေသကြီး၊ မင်းဘူးဒေသတွင် (၂၂၀) မဂ္ဂါဝပ် နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံတည်ဆောက်၍ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချ ခွင့်ပြုပါရန် တင်ပြခဲ့ခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၏ ၈-၈-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ လျှပ်စစ်-၂/(မူဝါဒ-မင်းဘူး)(၈၄၂၂)/၂၀၁၆

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁-၁၁-၂၀၁၆ ရက်စွဲပါစာအမှတ်၊ မရက-၅(လ)/န-၀၀၃/၂၀၁၆(၄၉၆)

၁။ ထိုင်းနိုင်ငံ Green Earth Power (Thailand) Co., Ltd. သည် Green Earth Power (Myanmar) Co., Ltd. ကို ထူထောင်၍ IPP စနစ်ဖြင့် မကွေးတိုင်းဒေသကြီး၊ မင်းဘူးဒေသတွင် နေစွမ်းအင်သုံးဓာတ်အားပေးစက်ရုံအား တည်ဆောက်ပြီး လျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ လုပ်ငန်းခွင့်ပြုမိန့် ချမှတ်ပေးနိုင်ပါရန်နှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပေးပါရန် ဤဝန်ကြီးဌာနမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ရည်ညွှန်း(၁)ပါစာဖြင့် ထောက်ခံတင်ပြခဲ့ခြင်းနှင့် ပတ်သက်၍ အောက်ပါအချက်အလက်များအား ပြန်လည်တင်ပြရန် ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းကြားခဲ့ပါသည်-

(က) လုပ်ငန်းဆောင်ရွက်မည့် မြေနှင့်စပ်လျဉ်း၍ ကုမ္ပဏီအမည်ပေါက် ရရှိရန်နှင့် အခြားနည်းဖြင့် မြေအသုံးချခွင့်ရရှိရေး ဆက်လက်ဆောင်ရွက်ရန်၊

(ခ) ဈေးငွေသဘောတူစာချုပ်တင်ပြရန်နှင့် မြေငှားရမ်းခြင်းစာချုပ် (မူကြမ်း)အား ပြန်လည်စိစစ်၍ ပြည့်စုံစွာ ပြင်ဆင်တင်ပြရန်၊

(ဂ) ပြည်တွင်းပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းစာရင်း ခွဲခြားတင်ပြရန်၊

(ဃ) Recycle Plan လုပ်မည့်အစီအစဉ်တင်ပြရန်၊

၂။ သို့ဖြစ်ပါ၍ Green Earth Power (Myanmar) Co., Ltd. ကို ထူထောင်၍ IPP စနစ်ဖြင့် မကွေးတိုင်းဒေသကြီး၊ မင်းဘူးဒေသတွင် နေစွမ်းအင်သုံးဓာတ်အားပေးစက်ရုံအား တည်ဆောက်ပြီး လျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လုပ်ငန်းခွင့်ပြုမိန့်၊ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားရရှိရေးအတွက် အပိုဒ်(၁)ပါ အချက်အလက်များနှင့်တကွ ပြန်လည်ပြုစု၍ တင်ပြအပ်ပါသည်။

ပူးတွဲလျက်- (၁) လုပ်ငန်းဆောင်ရွက်မည့် မြေနှင့်စပ်လျဉ်း၍ အခြားနည်းဖြင့် မြေအသုံးချခွင့် ရရှိရေး ဆောင်ရွက်နေမှုအခြေအနေ

(၂) ဈေးငွေသဘောတူစာချုပ်နှင့် မြေငှားရမ်းခြင်းစာချုပ် (မူကြမ်း)

(၃) ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများစာရင်း

(၄) Recycle Plan လုပ်မည့်အစီအစဉ်

၆/၁၂/၁၆

ပြည်ထောင်စုဝန်ကြီး( ဖော်ဝင်းအောင် )

(ထိန်လွင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာန

ရုံးလက်ခံ/ မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
မြေလွတ်၊ မြေလပ်နှင့်မြေရိုင်းများစီမံခန့်ခွဲရေးဗဟိုကော်မတီ

စာအမှတ်၊ ၆/မလရ - ၄ ( ၀၃၆ / ၂၀၁၆)
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ နိုဝင်ဘာလ (၂၈) ရက်

သို့

လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ **အစိုးရက ခွင့်ပြုသော ဥပဒေနှင့်ညီညွတ်သည့် အခြားလုပ်ငန်းအတွက် သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

၁။ ပုဂ္ဂလိက/ ကုမ္ပဏီအဖွဲ့အစည်းများမှ အစိုးရက ခွင့်ပြုသော ဥပဒေနှင့်ညီညွတ်သည့် အခြားလုပ်ငန်းအတွက် မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများစီမံခန့်ခွဲရေးဗဟိုကော်မတီသို့ လုပ်ပိုင်ခွင့် လျှောက်ထားလာမှုအား ၂၀၁၂ခုနှစ် မြေလွတ်၊ မြေလပ်နှင့်မြေရိုင်းများစီမံခန့်ခွဲရေးဥပဒေ၊ နည်းဥပဒေနှင့်အညီ ထုတ်ပြန်ထားရှိသည့် သက်ဆိုင်ရာဝန်ကြီးဌာနနှင့် ညှိနှိုင်း၍ ဗဟိုကော်မတီမှ ခွင့်ပြုပေးနိုင်ရေးအတွက် ဆပ်စပ်ဆောင်ရွက်သွားရမည်ဖြစ်ပါသည်။

၂။ ၂၀၁၂ခုနှစ် မြေလွတ်၊ မြေလပ်နှင့်မြေရိုင်းများစီမံခန့်ခွဲရေးဥပဒေ၊ နည်းဥပဒေတွင် ဗဟိုကော်မတီသည် အစိုးရက ခွင့်ပြုသော ဥပဒေနှင့်ညီညွတ်သည့် အခြားလုပ်ငန်းအတွက် လုပ်ငန်းနှင့် စပ်လျဉ်း၍ ဥပဒေပုဒ်မ ၁၀ ပုဒ်မခွဲ (ဃ) တွင် အစိုးရက ခွင့်ပြုသော ဥပဒေနှင့်ညီညွတ်သည့် အခြားလုပ်ငန်းအတွက်ဖြစ်ပါက သက်ဆိုင်ရာဝန်ကြီးဌာန၏သဘောထား တောင်းခံရမည်ဟုလည်းကောင်း၊ နည်းဥပဒေ ၁၆ အပိုဒ်ခွဲ (က) တွင် ဗဟိုကော်မတီသည် အစိုးရက ခွင့်ပြုသော ဥပဒေနှင့်ညီညွတ်သည့် အခြားလုပ်ငန်းအတွက်ဖြစ်ပါက ပြည်ထောင်စုအစိုးရ၊ သက်ဆိုင်ရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ကို တောင်းခံရမည်ဟုလည်းကောင်း၊ နည်းဥပဒေ ၃၃ တွင် ဗဟိုကော်မတီသည် မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများတွင် အစိုးရက ခွင့်ပြုသော ဥပဒေနှင့်ညီညွတ်သည့် အခြားလုပ်ငန်းများနှင့် စပ်လျဉ်း၍ လုပ်ကိုင်ရန် ခွင့်ပြုသည့်အခါ မြေဧရိယာနှင့်စပ်လျဉ်း၍ လုပ်ကိုင်မည့် လုပ်ငန်းအမျိုးအစားအလိုက် ပြည်ထောင်စုအစိုးရ၊ သက်ဆိုင်ရာဝန်ကြီးဌာနအသီးသီးနှင့် ညှိနှိုင်းခွင့်ပြုနိုင်သည်ဟုလည်းကောင်း၊ နည်းဥပဒေ ၃၅ တွင် ဗဟိုကော်မတီသည် မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများကို စိုက်ပျိုးရေးလုပ်ငန်း၊ မွေးမြူရေးလုပ်ငန်း၊ ဓာတ်သတ္တုထုတ်လုပ်ခြင်းလုပ်ငန်း၊ အစိုးရက ခွင့်ပြုထားသော ဥပဒေနှင့် ညီညွတ်သည့် အခြားလုပ်ငန်းများနှင့် ယင်းတို့နှင့်ဆက်နွယ်လျက်ရှိသော စီးပွားရေးလုပ်ငန်းများအလို့ငှာ လုပ်ပိုင်ခွင့်၊ အသုံးပြုခွင့်ပြုသည့် အချိန်ကာလနှင့်စပ်လျဉ်း၍ အစိုးရက ခွင့်ပြုသော ဥပဒေနှင့် ညီညွတ်သည့် အခြားလုပ်ငန်းများအတွက် ပြည်ထောင်စုအစိုးရ၊ သက်ဆိုင်ရာဝန်ကြီးဌာနနှင့် ညှိနှိုင်းခွင့်ပြုနိုင်သည်ဟုလည်းကောင်း ပြဋ္ဌာန်းထားရှိပါသည်။

၃။ သို့ဖြစ်ပါ၍ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံအတွင်းရှိ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများတွင် နည်းလမ်းမျိုးစုံအတွက် အသုံးပြုရန်လျှောက်ထားလာသော ကိစ္စရပ်များအား အသုံးပြုမှုနည်းလမ်းများနှင့် ဆက်စပ်ပတ်သက်သည့် ဝန်ကြီးဌာနများထံမှ သဘောထားမှတ်ချက်များ တောင်းခံ၍ ခွင့်ပြုမိန့် ထုတ်ပေးသွားရမည်ဖြစ်ပါသောကြောင့် အစိုးရက ခွင့်ပြုသော ဥပဒေနှင့် ညီညွတ်သည့် အခြားလုပ်ငန်းအတွက် လျှောက်ထားလာပါက မြေလွတ်၊ မြေလပ်နှင့်မြေရိုင်းများ စီမံခန့်ခွဲရေးဗဟိုကော်မတီအနေဖြင့် သက်ဆိုင်ရာဝန်ကြီးဌာန၏ သဘောထားတောင်းခံသွားမည်ဖြစ်ပြီး၊ လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနအနေဖြင့် ခွင့်ပြုနိုင်မည့် ဧရိယာတို့အား မြေလွတ်၊ မြေလပ်နှင့်မြေရိုင်းများစီမံခန့်ခွဲရေးဗဟိုကော်မတီသို့ ပြန်ကြားပေးနိုင်ပါရန် ပူးတွဲဖယားဖြင့် ညှိနှိုင်းအကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
( သက်နိုင်ဦး၊ အတွင်းရေးမှူး )
မြေလွတ်၊ မြေလပ်နှင့်မြေရိုင်းများစီမံခန့်ခွဲရေးဗဟိုကော်မတီ

မိတ္တူ။

လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန

အစိုးရက ခွင့်ပြုသော ဥပဒေနှင့်ညီညွတ်သည့် အခြားလုပ်ငန်းအတွက် လုပ်ပိုင်ခွင့်၊ အသုံးပြုခွင့် လျှောက်ထားလာမှုအခြေအနေ

| စဉ် | တိုင်းဒေသကြီး/ ပြည်နယ် | မြို့နယ် | ရပ်ကွက်/ ကျေးရွာအုပ်စု | လျှောက်ထားသည့် မြေဧရိယာ | လျှောက်ထားသူအစိုးရဌာန/ ပုဂ္ဂလိက/ အဖွဲ့အစည်း | အသုံးပြုလိုသည့် နည်းလမ်း |
|---|---|---|---|---|---|---|
| ၁။ | မကွေး | မင်းဘူး | မင်းလှကျင်း | ၈၃၆.၀၀ | ဦးအောင်သီဟ (AVA Capital Trading) | နေရောင်ခြည်စွမ်းအင်သုံး လျှပ်စစ်ဓာတ်အားပေးစက်ရုံ ဆောက်လုပ်ရန် |
| ၂။ | ရှမ်း | မူဆယ် | မိုင်းယု (၁၀၅)မိုင် | ၂.၃၅ | ဦးကျော်ဝင်း (သိန်းသန်းချီကုမ္ပဏီ လီမိတက်) | ဆီဆိုင်နှင့် ဝန်ထမ်းအိမ်ယာ ဆောက်လုပ်ရန် |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန
လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာန

စာအမှတ်၊ ၇၉၁ /၁၈၃/ရေ-ပြည့်ဖြိုး/စီမံရေး(လျှပ်စစ်)
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ၊ နိုဝင်ဘာလ ၉ ရက်

အကြောင်းအရာ။ မင်းဘူးဒေသတွင် (၂၂၀ မဂ္ဂါဝပ်) နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခွင့်ပြုပါရန် အဆိုပြု တင်ပြခဲ့ခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အစည်းအဝေး ဆုံးဖြတ်ချက် ပေးပို့လာခြင်းကိစ္စ

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁-၁၁-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ မရက- ၅(လ)/ န-၀၀၃/၂၀၁၆(၄၉၆)

၁။ မင်းဘူးဒေသတွင် (၂၂၀ မဂ္ဂါဝပ်) နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံတည်ဆောက်၍ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခဲ့ခြင်းအပေါ် ၂၀၁၆ ခုနှစ်၊ အောက်တိုဘာလ (၂၄ ) ရက်နေ့တွင် ကျင်းပသည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက် စိစစ်ရေး အဖွဲ့၏ (၃၉/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပြီး၊ အဆိုပါ ဆုံးဖြတ်ချက်များ နှင့်အညီ ဆောင်ရွက်ပြီး ပြန်လည်တင်ပြပေးပါရန် ရည်ညွှန်း ပါစာဖြင့် အကြောင်းကြား လာပါသည်-

(က) လုပ်ငန်းဆောင်ရွက်မည့်မြေနှင့်စပ်လျဉ်း၍ ကုမ္ပဏီအမည်ပေါက် ရရှိရန်နှင့် အခြား နည်းဖြင့် မြေအသုံးချခွင့်ရရှိရေး ဆက်လက်ဆောင်ရွက်ရန်

( ခ ) ချေးငွေသဘောတူစာချုပ် တင်ပြရန်နှင့် မြေငှားရမ်းခြင်းစာချုပ် (မူကြမ်း) အား ပြန်လည်စိစစ်၍ ပြည့်စုံစွာ ပြင်ဆင်တင်ပြရန်

( ဂ ) ပြည်တွင်း၊ ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းစာရင်း ခွဲခြားတင်ပြရန်

(ဃ) Recycle Plant လုပ်မည့် အစီအစဉ်တင်ပြရန်

၂။ သို့ဖြစ်ပါ၍ GEP (Myanmar) Co., Ltd. အနေဖြင့် အထက်ဖော်ပြပါ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အစည်းအဝေးဆုံးဖြတ်ချက်များအတိုင်း ဆောင်ရွက်ပြီး ဆောလျှင်စွာ ပြန်လည် တင်ပြနိုင်ရန် အကြောင်းကြားပါသည်။

(မိမိခိုင်)
ညွှန်ကြားရေးမှူးချုပ်

GEP (Myanmar) Co., Ltd.

မိတ္တူကို
လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်း
ရုံးလက်ခံ/မျှောစာတွဲ

E/HNH ... /MKMH/2015/DEP LH

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့
အဆိုပြုချက်စိစစ်ရေးအဖွဲ့

တယ်လီဖုန်း - ၀၁-၆၅၈၁၃၀
ဖက်(စ်) - ၀၁-၆၅၈၁၄၂

စာအမှတ်၊ မရက- ၅(လ)/ န-၀၀၃/၂၀၁၆( ၄၉၆ )
ရက်စွဲ၊ ၂၀၁၆ခုနှစ် နိုဝင်ဘာလ ၁ ရက်

သို့
ပြည်ထောင်စုဝန်ကြီးရုံး
လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ထိုင်းနိုင်ငံမှ Green Earth Power (Thailand) Co., Ltd. သည် မြန်မာနိုင်ငံတွင် GEP (Myanmar) Co., Ltd. တည်ထောင်ကာ မကွေးတိုင်းဒေသကြီး၊ မင်းဘူး(စကု)ဒေသတွင် (၂၂၀)မဂ္ဂါဝပ်နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

ရည်ညွှန်းချက် ။ လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန၏ ၈-၈-၂၀၁၆ ရက်စွဲပါစာအမှတ်၊ လျှပ်စစ်-၂ (မူဝါဒ-မင်းဘူး) (၈၄၂၂)/၂၀၁၆

၁။ GEP (Myanmar) Co., Ltd. ၏ ရည်ညွှန်းပါစာဖြင့် လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်တင်ပြခြင်းကို ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၂၄ ရက်နေ့တွင် ကျင်းပသည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၃၉/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်-

(က) လုပ်ငန်းဆောင်ရွက်မည့် မြေနှင့်စပ်လျဉ်း၍ ကုမ္ပဏီအမည်ပေါက်ရရှိရန်နှင့် အခြားနည်းဖြင့် မြေအသုံးပြုခွင့်ရရှိရေး ဆက်လက်ဆောင်ရွက်ရန်။
(ခ) ချေးငွေသဘောတူစာချုပ် တင်ပြရန်နှင့် မြေငှားရမ်းခြင်းစာချုပ်(မူကြမ်း)အား ပြန်လည်စိစစ်၍ ပြည့်စုံစွာ ပြင်ဆင်တင်ပြရန်။
(ဂ) ပြည်တွင်း၊ ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းစာရင်း ခွဲခြားတင်ပြရန်။
(ဃ) Recycle Plant လုပ်မည့် အစီအစဉ်တင်ပြရန်။

၂။ သို့ပါ၍ အထက်ပါ အစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ ဆောင်ရွက်ပြီး ပြန်လည်တင်ပြပေးပါရန် အကြောင်းကြားအပ်ပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(လင်းထွဋ်၊ ညွှန်ကြားရေးမှူး)

မိတ္တူကို
လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာန
လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်း

GEP (Myanmar)

INV-4

GEP (MYANMAR) COMPANY LIMITED.
Suite -213, Building ( C ), Pearl Condo,
Kabaraye Pagoda Road, BahanTownship,Yangon, Myanmar.
Tel: + 01 8604660~8

သို့/

ညွှန်ကြားရေးမှူးချုပ်
လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာန
လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန
နေပြည်တော်။

နေ့ရက် ။ ။၂၀၁၆ခုနှစ်၊ဒီဇင်ဘာလ(၇) ရက်
စာအမှတ်။။ GEPM- DEPPDG(00031)-071216

အကြောင်းအရာ ။ ။ မင်းဘူးနေရောင်ခြည်စွမ်းအင်သုံးလျှပ်စစ်ဓါတ်အားပေးစက်ရုံအတွက် ၂၀၁၆ခုနှစ် အောက်တိုဘာလ (၂၄) ရက်နေ့တွင် ကျင်းပသည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အဆိုပြုချက်စိစစ်ရေးအဖွဲ့မှ အစည်းဝေးဆုံးဖြတ်ချက်အရ တောင်းခံလာသည့် စာရွက်စာတမ်းများအားတင်ပြခြင်း။

ရည်ညွှန်းချက် (၁) လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၏ ၈-၈-၂၀၁၆ခုနှစ် ရက်စွဲပါစာအမှတ်- လျှပ်စစ်-၂ (မှူပါဒ-မင်းဘူး) (၈၄၂၂)/၂၀၁၆။

ရည်ညွှန်းချက် (၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁-၁၁-၂၀၁၆ခုနှစ် ရက်စွဲပါစာအမှတ်-မရက-၅ (လ)/န-၀၀၃/၂၀၁၆ (၄၉၆)။

ရည်ညွှန်းချက် (၃) လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာန၏ ၉-၁၁-၂၀၁၆ခုနှစ် ရက်စွဲပါစာအမှတ်- ၇၉၁/၁၈၃/ရေ-ပြည့်ဖြိုး/စီမံရေး(လျှပ်စစ်)

(၁) GEP (Myanmar) Co., Ltd. အနေဖြင့် ၂၂၀ မဂ္ဂါဝပ်မင်းဘူးနေရောင်ခြည်စွမ်းအင်သုံး လျှပ်စစ်ထုတ်လုပ်ရေးစက်ရုံတစ်ခုမြန်မာနိုင်ငံတွင်တည်ဆောက်အကောင်အထည်ဖော်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံသို့ ရည်ညွှန်းချက် (၁) ဖြင့် တင်ပြခဲ့ပါသည်။

(၂) ၂၀၁၆ခုနှစ်၊ အောက်တိုဘာလ (၂၄) ရက်နေ့တွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှအဆိုပြုချက် စိစစ်ရေးအဖွဲ့မှဦးဆောင်ပြီးအစည်းအဝေးပြုလုပ်ခဲ့ပါသည်။

(၃) အဆိုပါ အစည်းအဝေးပြီးနောက်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အဆိုပြုချက်စိစစ်ရေးအဖွဲ့မှ ရည်ညွှန်းချက် (၂) ဖြင့်လည်းကောင်း၊ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန၊ လျှပ်စစ်စွမ်းအား စီမံရေးဦးစီးဌာနမှ ရည်ညွှန်းချက် (၃) ဖြင့်လည်းကောင်း GEP (Myanmar) Co., Ltd. ထံသို့ပြန်လည်အကြောင်းကြားခဲ့ရာ၊ GEP (Myanmar) Co., Ltd. အနေဖြင့် အဆိုပြုချက်အဖွဲ့၏ တောင်းဆိုထားသည့်အချက်များအားလေးစားစွာဖြင့်တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

AungThiha

Managing Director
GEP (Myanmar) Co., Ltd.

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန**

စာအမှတ် ၊ လျှပ်စစ်-၂(မူဝါဒ-မင်းဘူး)( ၈၄၂၂ )/၂၀၁၆

ရက်စွဲ ၊ ၂၀၁၆ခုနှစ်၊ ဩဂုတ်လ ၈ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **မကွေးတိုင်းဒေသကြီး၊ မင်းဘူးဒေသတွင် (၂၂၀) မဂ္ဂါဝပ် နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံတည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခွင့် ပြုပါရန် တင်ပြခြင်း**

၁။ ထိုင်းနိုင်ငံ Green Earth Power (Thailand) Co., Ltd. သည် မကွေးတိုင်းဒေသကြီး၊ မင်းဘူးဒေသတွင် (၂၂၀) မဂ္ဂါဝပ် နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံ တည်ဆောက်နိုင်ရေးအတွက် ဖြစ်မြောက်နိုင်စွမ်းလေ့လာမှုလုပ်ငန်းဆောင်ရွက်ရန် လျှပ်စစ်စွမ်းအားဦးစီးဌာနနှင့် (၂-၅-၂၀၁၃) ရက်နေ့တွင် နားလည်မှုစာချွန်လွှာ (MOU) ကို လက်မှတ်ရေးထိုးခဲ့ပါသည်။

၂။ မြန်မာနိုင်ငံဓာတ်အားစနစ်၏ လက်ရှိဓာတ်အားထုတ်လုပ်မှုပမာဏနှင့် လက်ရှိ ၂၃၀ ကေဗွီဓာတ်အားလိုင်းများ၏ နိုင်နင်းမှုအရ တစ်နှစ်လျှင် လျှပ်စစ်ဓာတ်အား ယူနစ်သန်းပေါင်း (၃၅၀) ခန့် ထုတ်လုပ်မည့် မင်းဘူးနေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံကို အောက်ပါအတိုင်း အဆင့် (၄) ဆင့်ခွဲ၍ တည်ဆောက်မည်ဖြစ်ပါသည်-

| | တပ်ဆင်အင်အား | တည်ဆောက်မည့်ကာလ |
|---|---|---|
| (က) ပထမအဆင့် | ၅၀ မဂ္ဂါဝပ် | (၁၂) လ အတွင်း |
| ( ခ )ဒုတိယအဆင့် | ၅၀ မဂ္ဂါဝပ် | (၁၂) လ အတွင်း |
| ( ဂ )တတိယအဆင့် | ၅၀ မဂ္ဂါဝပ် | (၁၂) လ အတွင်း |
| (ဃ) စတုတ္ထအဆင့် | ၇၀ မဂ္ဂါဝပ် | (၁၂) လ အတွင်း |

၃။ အဆိုပါ မင်းဘူးနေစွမ်းအင်သုံးဓာတ်အားပေးစက်ရုံမှ ထွက်ရှိမည့်ဓာတ်အားကို ဓာတ်အားစနစ်နှင့် ဆက်သွယ်နိုင်ရန်အတွက် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှ အောက်ပါဓာတ်အားလိုင်း (၂)လိုင်း တည်ဆောက်သွားရမည် ဖြစ်ပါသည်-

(က) ဥသျှစ်ပင် - တောင်ကုတ်- မအီ- အမ်း- မင်းဘူး ၂၃၀ ကေဗွီ ဓာတ်အားလိုင်း

( ခ ) မင်းဘူး- တောင်တွင်းကြီး ၂၃၀ ကေဗွီ ဓာတ်အားလိုင်း

၄။ (၂၂၀) မဂ္ဂါဝပ် နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံ၏ ရင်းနှီးမြှုပ်နှံမှုကုန်ကျစရိတ်နှင့် စီမံကိန်း၏ ဖြစ်မြောက်နိုင်မှုအခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | |
|---|---|
| (က) စီမံကိန်းကုန်ကျစရိတ် | အမေရိကန်ဒေါ်လာ (၂၉၇) သန်း |
| (ခ) တစ်ယူနစ်ဓာတ်အားခဈေးနှုန်း | အမေရိကန်ဒေါ်လာ (၁၃) ဆင့် |
| (ဂ) လုပ်ကိုင်ခွင့်ကာလ | (၃၀) နှစ် |
| (ဃ) အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | (၅.၁၈) % |
| (င) စီမံကိန်းအတွက် မြေနေရာ | မင်းဘူး (၈၃၆) ဧက |
| (စ) မြေနေရာအတွက် မြေငှားစာချုပ် | ဧက(၇၀၀)အတွက်AVA Capital Trading Ltd. နှင့် GEP (Myanmar) Co., Ltd.၊ ဧက(၁၃၆)အတွက်သယံဇာတနှင့် သဘာပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနနှင့် GEP (Myanmar) Co., Ltd. တို့ ချုပ်ဆိုပါမည်။ |

၅။ စီမံကိန်းအကောင်အထည်ဖော်မည့် ကုမ္ပဏီများမှ စီမံကိန်းဖြစ်မြောက်နိုင်စွမ်းလေ့လာမှု အစီရင်ခံစာကို တင်ပြလာသည့်အတွက် စိစစ်၍ နှစ်ဖက်ညှိနှိုင်းဆွေးနွေးမှုများ ပြုလုပ်ခဲ့ကြပြီးနောက် သဘောတူညီမှုစာချွန်လွှာ (MOA) ကို လက်မှတ်ရေးထိုးခွင့်ပြုပါရန် စီးပွားရေးရာကော်မတီသို့ **နောက်ဆက်တွဲ (က)** ဖြင့် လည်းကောင်း၊ ပြည်ထောင်စုအစိုးရအဖွဲ့သို့ **နောက်ဆက်တွဲ (ခ)** ဖြင့် လည်းကောင်း တင်ပြခဲ့ပါသည်။

၆။ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ လျှပ်စစ်စွမ်းအားဦးစီးဌာနနှင့် ထိုင်းနိုင်ငံ Green Earth Power (Thailand) Co., Ltd. သည် မကွေးတိုင်းဒေသကြီး၊ မင်းဘူးဒေသတွင် နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံအား အကောင်အထည်ဖော်ဆောင်ရွက်ရန်အတွက် သဘောတူညီမှုစာချွန်လွှာ (MOA) ကို ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ (၉-၁၀-၂၀၁၄) ရက်နေ့တွင် ကျင်းပသော အစည်းအဝေး အမှတ်စဉ် (၂၀/၂၀၁၄) ၏ သဘောတူခွင့်ပြုချက်ဖြင့် (၁၆-၁၀-၂၀၁၄) ရက်နေ့တွင် သဘောတူညီမှု စာချွန်လွှာ (MOA) **နောက်ဆက်တွဲ (ဂ)** ကို လက်မှတ်ရေးထိုးခဲ့ပြီးဖြစ်ပါသည်။

၇။ သဘောတူညီမှု စာချွန်လွှာ (MOA) လက်မှတ်ရေးထိုးခွင့်အား ပြည်ထောင်စုအစိုးရ အဖွဲ့ရုံးသို့ တင်ပြခဲ့သည့် စီးပွားရေးဆိုင်ရာ တွက်ခြေကိုက်မှု စိစစ်ချက် အခြေအနေနှင့် မြန်မာနိုင်ငံ

ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့် စီးပွားရေးဆိုင်ရာ တွက်ချက်မှု စိစစ်ချက် ကွဲလွဲနေမှုအား နောက်ဆက်တွဲ (ဃ) ဖြင့် ရှင်းလင်းတင်ပြအပ်ပါသည်။

၈။ (၂၂၀) မဂ္ဂါဝပ် နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံအတွက် စီမံကိန်းကုန်ကျစရိတ် အမေရိကန်ဒေါ်လာ (၂၉၇) သန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း ရင်းနှီးမြှုပ်နှံသွားမည် ဖြစ်ပါသည်-

| | အမေရိကန်ဒေါ်လာ(သန်း) | ရာခိုင်နှုန်း (%) |
|---|---|---|
| (က) အစုရှယ်ယာရှင်များ၏ ထည့်ဝင်မှု | ၈၇.၉၅ | ၃၀ |
| ( ခ )ချေးငွေပမာဏ | ၂၀၉.၀၅ | ၇၀ |
| စုစုပေါင်း | ၂၉၇.၀၀ | ၁၀၀ |

၉။ စီမံကိန်းတည်ဆောက်ရာတွင် ဆောင်ရွက်မည့် လုပ်ငန်းကဏ္ဍများအလိုက် အောက်ပါအတိုင်း ရင်းနှီးမြှုပ်နှံသွားမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်-

| | အမေရိကန်ဒေါ်လာ (သန်း) |
|---|---|
| (က) ငွေသား | ၇၂.၇၇ |
| ( ခ )စက်ပစ္စည်းကိရိယာများ | ၂၂၄.၂၃ |
| စုစုပေါင်း | ၂၉၇.၀၀ |

၁၀။ ရင်းနှီးမြှုပ်နှံရန် လိုအပ်သည့် ချေးငွေပမာဏအပေါ် အတိုးနှုန်းမှာ တည်ဆောက်ရေးကာလအတွင်း (၆) % ဖြစ်ပြီး လည်ပတ်မောင်းနှင်သည့် ကာလအတွင်း (၅) % ဖြစ်ပါသည်။ စီးပွားရေးဆိုင်ရာ တွက်ချက်မှုအခြေအနေ အချက်အလက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | |
|---|---|
| (က) အရင်းကြေကာလ | (၁၆) နှစ်(၉)လ |
| ( ခ )အကြွေးကြေကာလ | (၁၂) နှစ် |
| ( ခ ) Internal Rate of Return (IRR) | (၅.၁၈) % |

၁၁။ စီမံကိန်းကို Independent Power Producer (IPP) စနစ်ဖြင့် ဆောင်ရွက်မည်ဖြစ်ပြီး နေစွမ်းအင်သုံးဓာတ်အားပေးစက်ရုံမှ ထွက်ရှိမည့် လျှပ်စစ်ဓာတ်အားကို ဝယ်ယူရန်အတွက် ဓာတ်အားဝယ်ယူရေးသဘောတူစာချုပ် (PPA) ကို ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ (၂၅-၂-၂၀၁၆) ရက်နေ့တွင် ကျင်းပသော အစည်းအဝေးအမှတ်စဉ် (၈/၂၀၁၆) ၏ သဘောတူခွင့်ပြုချက် နောက်ဆက်တွဲ (င) ဖြင့် (၂၀-၃-၂၀၁၆)ရက်နေ့တွင် လက်မှတ်ရေးထိုးခဲ့ပြီးဖြစ်ပါသည်။

၁၂။ စီမံကိန်းဆိုင်ရာ သဘာဝပတ်ဝန်းကျင်နှင့် လူမှုပတ်ဝန်းကျင်သက်ရောက်မှုဆန်းစစ်ချက် (ESIA) အစီရင်ခံစာများကို သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြခဲ့ရာ အဆိုပါ ESIA အစီရင်ခံစာများတွင် ထပ်မံဖြည့်စွက်ရန် လိုအပ်သည့်အချက်များအား ဖြည့်စွက်၍ ပြန်လည်ပြုစုတင်ပြထားပါသည်။

၁၃။ မကွေးတိုင်းဒေသကြီးအတွင်းရှိ မင်းဘူးဒေသတွင် နေစွမ်းအင်သုံး ဓာတ်အားပေး စက်ရုံသည် နိုင်ငံတော်၏ လျှပ်စစ်ဓာတ်အားလိုအပ်ချက်ကို ဖြည့်ဆည်းပေးနိုင်မည့် စီမံကိန်း ဖြစ်ပါသဖြင့် ဆောလျင်စွာ အကောင်အထည်ဖော် တည်ဆောက်နိုင်ရေးအတွက် အောက်ပါ အချက်များကို ခွင့်ပြုနိုင်ပါရန် ထောက်ခံတင်ပြအပ်ပါသည်-

(က) လုပ်ငန်းများလျှင်မြန်စွာ ဆောင်ရွက်နိုင်ရန် သွင်းကုန်များအား လုပ်ငန်းခွင်သို့ သတ်မှတ်ထားသော ဥပဒေနှင့်အညီ တင်သွင်းခွင့်ပြုပါရန်။

(ခ) စီမံကိန်းတည်ဆောက်မည့်နေရာသို့တည်ဆောက်ရေးလုပ်ငန်းသုံး ပစ္စည်းများအား သတ်မှတ်ထားသော ဥပဒေနှင့်အညီ တင်သွင်းခွင့်ပြုပါရန်။

(ဂ) တည်ဆောက်ရေးကာလအတွင်း အသုံးပြုမည့် မော်တော်ယာဉ်၊ စက်ယန္တရား များနှင့်ဆက်စပ်ပစ္စည်းများအား သတ်မှတ်ထားသော ဥပဒေနှင့်အညီ တင်သွင်းခွင့် ပြုပါရန်။

(ဃ) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့် များအား ခံစားခွင့်ပြုပါရန်။

၁၄။ သို့ဖြစ်ပါ၍ ထိုင်းနိုင်ငံ Green Earth Power (Thailand) Co., Ltd. သည် Green Earth Power (Myanmar) Co., Ltd. ကို ထူထောင်၍ IPP စနစ်ဖြင့် မကွေးတိုင်းဒေသကြီး၊ မင်းဘူးဒေသတွင် နေစွမ်းအင်သုံးဓာတ်အားပေးစက်ရုံအား တည်ဆောက်ပြီး လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ လုပ်ငန်းခွင့်ပြုမိန့် ချမှတ်ပေးနိုင်ပါရန်နှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပေးပါရန် တင်ပြလာသည့်အဆိုပြုချက်အား ခွင့်ပြုနိုင်ပါရန် ထောက်ခံတင်ပြအပ်ပါသည်။

8/8/16
ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(ထိန်လွင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို
တင်ပြ/လက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

စာအမှတ်၊ ၁ လစ (DEP) ( ၁၀၇၉၂ )/၂၀၁၄

ရက်စွဲ ၊ ၂၀၁၄ ခုနှစ်၊ ဩဂုတ်လ ၃၁ ရက်

စီးပွားရေးရာကော်မတီသို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ ထိုင်းနိုင်ငံ Green Earth Power (Thailand) Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုဖြင့် မကွေးတိုင်းဒေသကြီး၊ မင်းဘူးဒေသတွင်(၂၂၀)မဂ္ဂါဝပ် နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံစီမံကိန်းအား BOT စနစ်ဖြင့် ဆောင်ရွက်ရေးအတွက် သဘောတူညီမှုစာချုပ် (MOA) လက်မှတ်ရေးထိုး ချုပ်ဆိုခွင့်တင်ပြခြင်း

၁။ ဆွေးနွေးလိုသည့် အဓိကအချက်များ

(က) ထိုင်းနိုင်ငံ Green Earth Power (Thailand) Co., Ltd. သည် မကွေးတိုင်းဒေသကြီး၊ မင်းဘူးဒေသတွင် နေစွမ်းအင်သုံးဓာတ်အားပေးစက်ရုံ တည်ဆောက်ရေးအတွက် ဖြစ်မြောက်နိုင်စွမ်းလေ့လာမှုလုပ်ငန်းဆောင်ရွက်ရန် လျှပ်စစ်စွမ်းအားဦးစီးဌာနနှင့် နားလည်မှုစာချွန်လွှာ(MOU)ကို (၂-၅-၂၀၁၃)ရက်နေ့တွင် လက်မှတ်ရေးထိုးခဲ့ပါသည်။

(ခ) မြန်မာနိုင်ငံဓာတ်အားစနစ်၏ လက်ရှိဓာတ်အားထုတ်လုပ်မှုပမာဏနှင့် လက်ရှိ ၂၃၀ ကေဗွီ ဓာတ်အားလိုင်းများ နိုင်နင်းမှုအရ တစ်နှစ်လျှင် လျှပ်စစ်ဓာတ်အားယူနစ်သန်းပေါင်း(၃၅၀)ခန့် ထုတ်လုပ်မည့် မင်းဘူးနေစွမ်းအင်သုံးဓာတ်အားပေးစက်ရုံကို အောက်ပါအတိုင်း အဆင့်(၃)ဆင့်ခွဲ၍ တည်ဆောက်မည်ဖြစ်ပါသည်-

| | တပ်ဆင်အင်အား | တည်ဆောက်မည့်ကာလ |
|---|---|---|
| (၁) ပထမအဆင့် | ၅၀ မဂ္ဂါဝပ် | (၉)လမှ(၁၂)လအတွင်း |
| (၂) ဒုတိယအဆင့် | ၈၅ မဂ္ဂါဝပ် | (၄)လမှ(၉)လအတွင်း |
| (၃) တတိယအဆင့် | ၈၅ မဂ္ဂါဝပ် | (၄)လမှ(၉)လအတွင်း |

(ဂ) အထက်ပါ မင်းဘူးနေစွမ်းအင်သုံးဓာတ်အားပေးစက်ရုံမှ ဓာတ်အားကို ဓာတ်အားစနစ်နှင့်ဆက်သွယ်ရန်အတွက် လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ အောက်ပါဓာတ်အားလိုင်း (၂)လိုင်း တည်ဆောက်ရန် လိုအပ်ပါသည်-

(၁) ဥသျှစ်ပင်-တောင်ကုတ်-မအီ-အမ်း-မင်းဘူး ၂၃၀ ကေဗွီ ဓာတ်အားလိုင်း။

(၂) မင်းဘူး-တောင်တွင်းကြီး ၂၃၀ ကေဗွီ ဓာတ်အားလိုင်း။

(ဃ) (၂၂၀)မဂ္ဂါဝပ် နေစွမ်းအင်သုံးဓာတ်အားပေးစက်ရုံအတွက် ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်အားလုံးကို Green Earth Power (Thailand) Co., Ltd. မှ ကျခံမည်ဖြစ်ပြီး စီမံကိန်းဖြစ်မြောက်နိုင်မှုအခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | |
|---|---|---|
| (၁) | စီမံကိန်းကုန်ကျစရိတ် | အမေရိကန်ဒေါ်လာ (၃၅၂)သန်း |
| (၂) | ဓာတ်အားစျေးနှုန်း | (၁၃) ဆင့် |
| (၃) | လုပ်ကိုင်ခွင့်ကာလ | (၃၀) နှစ် |
| (၄) | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း IRR | (၇.၂၈) % |
| (၅) | စီမံကိန်းအတွက် မြေနေရာ | မင်းဘူး(၈၃၆) ဧက |
| (၆) | မြေနေရာအတွက် မြေငှားစာချုပ် | AVA Capital Trading Ltd. နှင့် Green Earth Power (Thailand) Co., Ltd. တို့ ချုပ်ဆိုပါမည်။ |

(င) Green Earth Power (Thailand) Co., Ltd. နှင့် AVA Capital Trading Ltd. တို့အကြား ချုပ်ဆိုမည့်မြေငှားစာချုပ်(LLA)(မူကြမ်း)အား နောက်ဆက်တွဲ(က) ဖြင့်လည်းကောင်း၊ မြေစာရင်းပုံ(၁၀၅)အား နောက်ဆက်တွဲ(ခ) ဖြင့်လည်းကောင်း၊ လျှပ်စစ်စွမ်းအားဦးစီးဌာနနှင့် Green Earth Power (Thailand) Co., Ltd. တို့အကြား (၂၂၀)မဂ္ဂါဝပ် နေစွမ်းအင်သုံးဓာတ်အားပေးစက်ရုံစီမံကိန်း ဆောင်ရွက်ရန်အတွက် ချုပ်ဆိုမည့် MOA (မူကြမ်း)အား နောက်ဆက်တွဲ(ဂ) ဖြင့်လည်းကောင်း၊ တင်ပြအပ်ပါသည်။

၂။ ဆွေးနွေးသည့် အကြောင်းအရာပေါ် ဌာန၏ သုံးသပ်တင်ပြချက်

(က) ဝန်ကြီးဌာန၏ မူဝါဒ ဥပဒေ နည်းဥပဒေ လုပ်ထုံးလုပ်နည်း ရှုထောင့်အမြင် သုံးသပ်ချက်။ လျှပ်စစ်ဓာတ်အားလုံလောက်ပြည့်ဝစွာ ဖြန့်ဖြူးပေးနိုင်ရေးအတွက် ရရှိနိုင်သမျှ စွမ်းအင်အရင်းအမြစ်များ အသုံးပြု၍ လျှပ်စစ်ဓာတ်အားထုတ်လုပ်နိုင်ရေးဆောင်ရွက်ရန်ဟူသော ဝန်ကြီးဌာန၏မူဝါဒနှင့်အညီ ပြန်လည်ပြည့်ဖြိုးမြဲ စွမ်းအင်ဖြစ်သော နေရောင်ခြည်စွမ်းအင်ကို အသုံးပြု၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေး ဆောင်ရွက်ခြင်းဖြစ်ပါသည်။

(ခ) နိုင်ငံတကာ ဥပဒေ စည်းမျဉ်းလုပ်ထုံးလုပ်နည်း ရှုထောင့်အမြင်။ တင်ပြရန် မရှိပါ။

(ဂ) ပြည်သူလူထုအမြင် (သတင်း)။ သီးခြားဖော်ပြရန်မရှိပါ။

၃။ အခြားဆက်စပ်ဌာနအဖွဲ့အစည်းများ နှင့် ဒေသများရှုထောင့်မှ ပေါင်းစပ်ညှိနှိုင်းရန် လိုအပ်ချက်များ (ရှိလျှင်)။ MOA စာချုပ်မူကြမ်းအပေါ် အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန၊ ဘဏ္ဍာရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်နှင့် ပြည်ထောင်စုရှေ့နေချုပ်ရုံးများသို့ သဘောထားမှတ်ချက်များ တောင်းခံပြီး ယင်းမှတ်ချက်များနှင့်အညီ ပြင်ဆင်ဆောင်ရွက်ပါမည်။

၄။ ဆုံးဖြတ်ရန်အချက်

(က) ထိုင်းနိုင်ငံ Green Earth Power (Thailand) Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုဖြင့် မကွေးတိုင်းဒေသကြီး၊ မင်းဘူးဒေသတွင်(၂၂၀)မဂ္ဂါဝပ် နေစွမ်းအင်သုံးဓာတ်အားပေးစက်ရုံစီမံကိန်းအား BOT စနစ်ဖြင့် ဆောင်ရွက်ရန်အတွက် နှစ်ဘက်သဘောတူညီမှုစာချုပ်(MOA) လက်မှတ်ရေးထိုးချုပ်ဆိုခွင့်ပြုပါရန် သဘောတူ - မတူ။

(ခ) နိုင်ငံတော်သမ္မတ၊ ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ ဆက်လက်ထောက်ခံ တင်ပြရန် လို-မလို။

(ဂ) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ စီးပွားရေးရာကော်မတီ၏ အဆုံးအဖြတ်လမ်းညွှန်မှုကို နာခံပါမည်။

ခင်မောင်စိုး
ပြည်ထောင်စုဝန်ကြီး

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ စီးပွားရေးရာကော်မတီ

## လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ သဘောထားမှတ်ချက်

၁။ တင်ပြစာနှင့် စပ်လျဉ်း၍ -

| | | |
|---|---|---|
| (က) | ဝန်ကြီးဌာနမှထုတ်ပြန်ထားသော ဥပဒေ နည်းဥပဒေ၊ အမိန့်၊ ညွှန်ကြားချက်များ နှင့် ကိုက်ညီမှု ရှိ မရှိ။ | - ဝန်ကြီးရုံး၏ တည်ဆဲ ညွှန်ကြားချက်များအတိုင်း၊ လိုက်နာ ဆောင်ရွက်ခြင်း ဖြစ်ပါသည်။ |
| (ခ) | တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် အစိုးရအဖွဲ့ သဘောထား လို/မလို။ | - သဘောထားတောင်းခံရန်လိုအပ်ပါသည်။ |
| (ဂ) | သဘာဝပတ်ဝန်းကျင် ထိခိုက်မှု ရှိ/မရှိ ထင်မြင်ချက်။ | - လေ့လာမှုအစီရင်ခံစာပြုစုပြီး သဘောထား မှတ်ချက် တောင်းခံထားဆဲဖြစ်ပါသည်။ |
| (ဃ) | လူမှုစီးပွားပတ်ဝန်းကျင် ထိခိုက်မှု ရှိ/မရှိ ထင်မြင်ချက်။ | - ထိခိုက်မှု မရှိပါ။ |
| (င) | ကျန်းမာရေး ရှုထောင့်မှ ထိခိုက်မှု ရှိ/မရှိ ထင်မြင်ချက်။ | - ထိခိုက်မှု မရှိပါ ။ |
| (စ) | အခြား သီးခြားလွတ်လပ်သော အဖွဲ့အစည်းများနှင့် ပေါင်းစပ်ညှိနှိုင်းရန် လို မလို ထင်မြင်ချက်။ | - သီးခြားအဖွဲ့အစည်းများနှင့် ပေါင်းစပ် ညှိနှိုင်းရန် မလိုပါ။ |

၂။ အထွေထွေ မှတ်ချက်။ သီးခြား တင်ပြရန် မရှိပါ။

ခင်မောင်စိုး
ပြည်ထောင်စုဝန်ကြီး

ရက်စွဲ ၊ ၂၀၁၄ ခုနှစ်၊ ဩဂုတ်လ ၂၁ ရက်။

နေရာ ၊ ရုံးအမှတ် (၂၇)၊ နေပြည်တော်။

နောက်ဆက်တွဲ (ခ)

ဇ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

၁၁

စာအမှတ်၊ ၁ လစ (DEP) ( ၁၂၄၄၈ )/၂၀၁၄

ရက်စွဲ ၊ ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ ၂၇ ရက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ ။ ထိုင်းနိုင်ငံ Green Earth Power (Thailand) Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုဖြင့် မကွေးတိုင်းဒေသကြီး၊ မင်းဘူးဒေသတွင်(၂၂၀)မဂ္ဂါဝပ် နေ့စွမ်းအင်သုံး ဓာတ်အားပေးစက်ရုံစီမံကိန်းအား BOT စနစ်ဖြင့် ဆောင်ရွက်ရေးအတွက် သဘောတူညီမှုစာချုပ်(MOA) လက်မှတ်ရေးထိုး ချုပ်ဆိုခွင့်တင်ပြခြင်း

၁။ ထိုင်းနိုင်ငံ Green Earth Power (Thailand) Co., Ltd. သည် မကွေးတိုင်းဒေသကြီး၊ မင်းဘူးဒေသတွင် နေ့စွမ်းအင်သုံးဓာတ်အားပေးစက်ရုံ တည်ဆောက်ရေးအတွက် ဖြစ်မြောက်နိုင်စွမ်း လေ့လာမှုလုပ်ငန်းဆောင်ရွက်ရန် လျှပ်စစ်စွမ်းအားဦးစီးဌာနနှင့် နားလည်မှုစာချွန်လွှာ(MOU)ကို (၂-၅-၂၀၁၃)ရက်နေ့တွင် လက်မှတ်ရေးထိုးခဲ့ပါသည်။

၂။ မြန်မာနိုင်ငံဓာတ်အားစနစ်၏ လက်ရှိဓာတ်အားထုတ်လုပ်မှုပမာဏနှင့်လက်ရှိ ၂၃၀ကေဗွီ ဓာတ်အားလိုင်းများ နိုင်နင်းမှုအရ တစ်နှစ်လျှင် လျှပ်စစ်ဓာတ်အား ယူနစ်သန်းပေါင်း (၃၅၀)ခန့် ထုတ်လုပ်မည့် မင်းဘူးနေ့စွမ်းအင်သုံးဓာတ်အားပေး စက်ရုံကို အောက်ပါအတိုင်း အဆင့်(၃)ဆင့်ခွဲ၍ တည်ဆောက်မည်ဖြစ်ပါသည်-

| | တပ်ဆင်အင်အား | တည်ဆောက်မည့်ကာလ |
|---|---|---|
| (က) ပထမအဆင့် | ၅၀ မဂ္ဂါဝပ် | (၉)လမှ(၁၂)လအတွင်း |
| (ခ) ဒုတိယအဆင့် | ၈၅ မဂ္ဂါဝပ် | (၄)လမှ(၉)လအတွင်း |
| (ဂ) တတိယအဆင့် | ၈၅ မဂ္ဂါဝပ် | (၄)လမှ(၉)လအတွင်း |

၃။ အထက်ပါ မင်းဘူးနေ့စွမ်းအင်သုံးဓာတ်အားပေးစက်ရုံမှ ဓာတ်အားကို ဓာတ်အားစနစ် နှင့် ဆက်သွယ်ရန်အတွက် လျှပ်စစ်စွမ်းအားဝန်ကြီးဌာနမှ အောက်ပါဓာတ်အားလိုင်း (၂)လိုင်း တည်ဆောက်ရန် လိုအပ်ပါသည်-

(က) ဥသျှစ်ပင်-တောင်ကုတ်-မအီ-အမ်း-မင်းဘူး ၂၃၀ ကေဗွီ ဓာတ်အားလိုင်း။

(ခ) မင်းဘူး-တောင်တွင်းကြီး ၂၃၀ ကေဗွီ ဓာတ်အားလိုင်း။

၄။ (၂၂၀)မဂ္ဂါဝပ် နေစွမ်းအင်သုံးဓာတ်အားပေးစက်ရုံအတွက် ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်အားလုံးကို Green Earth Power (Thailand) Co., Ltd. မှ ကျခံမည်ဖြစ်ပြီး စီမံကိန်းဖြစ်မြောက်နိုင်မှုအခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | |
|---|---|---|
| (က) | စီမံကိန်းကုန်ကျစရိတ် | အမေရိကန်ဒေါ်လာ (၃၅၂)သန်း |
| (ခ) | ဓာတ်အားခဈေးနှုန်း | (၁၃) ဆင့် |
| (ဂ) | လုပ်ကိုင်ခွင့်ကာလ | (၃၀) နှစ် |
| (ဃ) | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း IRR | (၇.၂၈) % |
| (င) | စီမံကိန်းအတွက် မြေနေရာ | မင်းဘူး(၈၃၆) ဧက |
| (စ) | မြေနေရာအတွက် မြေငှားစာချုပ် | AVA Capital Trading Ltd. နှင့် Green Earth Power (Thailand) Co., Ltd. တို့ ချုပ်ဆိုပါမည်။ |

၅။ Green Earth Power (Thailand) Co., Ltd. နှင့် AVA Capital Trading Ltd. တို့အကြား ချုပ်ဆိုမည့်မြေငှားစာချုပ်(LLA)(မူကြမ်း)အား နောက်ဆက်တွဲ(က) ဖြင့်လည်းကောင်း၊ မြေစာရင်းပုံ(၁၀၅)အား နောက်ဆက်တွဲ(ခ) ဖြင့်လည်းကောင်းတင်ပြအပ်ပါသည်။

၆။ ထိုင်းနိုင်ငံ Green Earth Power (Thailand) Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုဖြင့် မကွေးတိုင်းဒေသကြီး၊ မင်းဘူးဒေသတွင် နေစွမ်းအင်သုံးဓာတ်အားပေးစက်ရုံစီမံကိန်းအား MOA လက်မှတ်ရေးထိုးရန်အတွက် ပြည်ထောင်စုအစိုးရအဖွဲ့ စီးပွားရေးရာကော်မတီ၏ (၂၉/၂၀၁၄) ကြိမ်မြောက်အစည်းအဝေးသို့ နောက်ဆက်တွဲ(ဂ) ဖြင့် တင်ပြခဲ့ရာတွင် သဘောတူဆုံးဖြတ်ခဲ့သည့် မှတ်တမ်းကောက်နုတ်ချက်အား နောက်ဆက်တွဲ(ဃ) ဖြင့် လည်းကောင်း၊ နိုင်ငံတော်သမ္မတရုံးမှ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန် အကြောင်းကြားစာအား နောက်ဆက်တွဲ(င) ဖြင့်လည်းကောင်း တင်ပြအပ်ပါသည်။

၇။ လျှပ်စစ်စွမ်းအားဦးစီးဌာနနှင့် ထိုင်းနိုင်ငံ Green Earth Power (Thailand) Co., Ltd. တို့အကြား ညှိနှိုင်းထားသော MOA စာချုပ်(မူကြမ်း)အား အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန၊ ဘဏ္ဍာရေးဝန်ကြီးဌာန၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်နှင့် ပြည်ထောင်စုရှေ့နေချုပ်ရုံးတို့၏ သဘောထားမှတ်ချက် နောက်ဆက်တွဲ(စ၊ ဆ၊ ဇ၊ ဈ) များနှင့်အညီ စာချုပ်ဝင်များမှ ပြန်လည်ညှိနှိုင်း ပြင်ဆင်ရေးဆွဲခဲ့ပြီးဖြစ်ပါ၍ နောက်ဆက်တွဲ(ည) အား လက်မှတ်ရေးထိုးချုပ်ဆိုခွင့်ပြုပါရန် တင်ပြအပ်ပါသည်။

၈။ **ဆုံးဖြတ်ရန်အချက်။** ထိုင်းနိုင်ငံ Green Earth Power (Thailand) Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုဖြင့် မကွေးတိုင်းဒေသကြီး၊ မင်းဘူးဒေသတွင်(၂၂၀)မဂ္ဂါဝပ် နေစွမ်းအင်သုံးဓာတ်အား ပေးစက်ရုံစီမံကိန်းအား BOT စနစ်ဖြင့် ဆောင်ရွက်ရန်အတွက် နှစ်ဘက်သဘောတူညီမှုစာချုပ် (MOA) လက်မှတ်ရေးထိုးချုပ်ဆိုခွင့်ပြုပါရန် သဘောတူ - မတူ။

၉။ **လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ထောက်ခံချက်။** ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ပြည်ထောင်စုအစိုးရအဖွဲ့၏ အဆုံးအဖြတ်ကို နာခံပါမည်။

ခင်မောင်စိုး
ပြည်ထောင်စုဝန်ကြီး

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ပြည်ထောင်စုအစိုးရအဖွဲ့

GREEN EARTH POWER (THAILAND) COMPANY LIMITED
Level 18, Park Ventures Ecoplex
57 Wireless Road, Lumpini, Pathumwan
Bangkok 10330, Thailand
Tel: +662 309-3592
Fax: +662 309-3434

# Financial Statement ကွဲလွဲနေမှုအားရှင်းလင်းတင်ပြခြင်း

## (၁) စီမံကိန်းကုန်ကျစရိတ်ကွဲလွဲခြင်း

Green Earth Power (Thailand) Co., Ltd. (GEP) အနေဖြင့် ဖြစ်မြောက်နိုင်စွမ်းအစီရင်ခံစာအား ၂၀၁၃ခုနှစ်၊ ဇူလိုင်လတွင်တင်ပြခဲ့ပါသည်။ အဆိုပါတင်ပြခဲ့ချိန်တွင် နေရောင်ခြည်စွမ်းအင်သုံးလျှပ်စစ်ဓါတ်အားပေးစက်ရုံ အတွက်တည်ဆောက်ရန်ကုန်ကျစရိတ်မှာ (၁) မဂ္ဂါဝပ်လျှင်အမေရိကန်ဒေါ်လာ (၁) သန်းနှင့် (၆) သိန်းဖြစ်ပါပြီး ၂၂၀ မဂ္ဂါဝပ်အတွက်စုစုပေါင်းကုန်ကျစရိတ်သည် အမေရိကန်ဒေါ်လာသန်းပေါင်း (၃၅၂) သန်းဖြစ်ပါသည်။

ယခု MIC proposal ထဲတွင်ပါဝင်သည့် Financial Statement ဖော်ပြသည့်ကုန်ကျစရိတ်မှာ (၁) မဂ္ဂါဝပ်လျှင် အမေရိကန်ဒေါ်လာ (၁) သန်းနှင့် (၃) သိန်း (၅) သောင်းဖြစ်ပြီး ၂၂၀ မဂ္ဂါဝပ်အတွက်စုစုပေါင်းကုန်ကျစရိတ်သည် အမေရိကန်ဒေါ်လာသန်းပေါင်း (၂၉၇) သန်းဖြစ်ပါသည်။

ယခုကဲ့သို့ဖြစ်ရခြင်းမှာ ၂၀၁၃ ခုနှစ်တုန်းက EPC contractor မှ တင်ပြလာသည့်ဈေးနှုန်းဖြစ်ပါသည်။ အဆိုပါ ဈေးနှုန်းအတိုင်း ဖြစ်မြောက်နိုင်စွမ်းအစီရင်ခံစာ (Feasibility Study Report) ထဲတွင်ဖော်ပြခဲ့ပါသည်။ ၂၀၁၅ခုနှစ် တွင် GEP အနေဖြင့် အလားအလာရှိသည့် EPC contractors များအား တင်ဒါစနစ်ဖြင့်ရွေးချယ်ခေါ်ယူခဲ့ရာ၊ အဆိုပါ EPC contractors များမှ နေရောင်ခြည်စွမ်းအင်သုံးလျှပ်စစ်ဓါတ်အားပေးစက်ရုံအတွက် တည်ဆောက်ရန်ကုန်ကျ စရိတ်သည် (၁) မဂ္ဂါဝပ်လျှင် အမေရိကန်ဒေါ်လာ (၁.၃၅) သန်းဖြင့်GEP သို့ ဈေးနှုန်းတင်ပြခဲ့ပါသည်။

ထို့အတွက်ကြောင့် ယခုတင်ပြခဲ့သည့်တည်ဆောက်ရေးကုန်ကျစရိတ်သည် ပစ္စုပ္ပန်ကာလ၏ဈေးနှုန်းဖြစ် သော ကြောင့် Financial Statement ထဲတွင်တင်ပြရခြင်းဖြစ်ပါသည်။

GREEN EARTH POWER (THAILAND) COMPANY LIMITED
Level 18, Park Ventures Ecoplex
57 Wireless Road, Lumpini, Pathumwan
Bangkok 10330, Thailand
Tel: +662 309-3592
Fax: +662 309-3434

(၂) IRR ကွဲလွဲချက်

ဖြစ်မြောက်နိုင်စွမ်းအစီရင်ခံစာအပေါ်တွင် IRR တန်ဖိုးသည် နှစ်စဉ် ၇.၂၈% ဖြစ်ဖော်ပြခဲ့ပါသည်။ အဆိုပါ ဖြစ်မြောက်နိုင်စွမ်းအစီရင်ခံစာအပေါ်တွင် IRR တန်ဖိုးသည် အတိုးနှုန်းအားထည့်သွင်းတွက်ချက်ခဲ့ပါသည်။ ယခု MIC အတွက် တင်ပြမည့် Financial Statement ထဲမှ MIC ၏ မူဆောင်ရွက်ချက်အရ အတိုးနှုန်းအား ထည့်တွင်းတွက်ချက်ရန်ခွင့်မပြုသောကြောင့် IRR ၏ တန်ဖိုးသည် ၇.၂၈ % မှ ၅.၁၈% သို့ထိုးဆင်းသွားရခြင်းဖြစ်ပါသည်။

(၃) စီမံကိန်းအားအဆင့်လိုက်တည်ဆောက်ခြင်း

ဖြစ်မြောက်နိုင်စွမ်းအစီရင်ခံစာအပေါ်တွင် GEP အနေဖြင့် စီမံကိန်းအား အဆင့် (၃) ဆင့်ဖြင့်တည်ဆောက်သွားမည် ဟုဖော်ပြခဲ့ပါသည်။ ယခုအခါတွင် GEP အနေဖြင့် Black & Veatch အား Technical Consultant အဖြစ်ငှားရမ်းထားပြီးဖြစ်ပါသည်။၎င်းတို့၏ Technical Advice အရ GEP အနေဖြင့် ယခုတည်ဆောက်မည့် မင်းဘူး နေရောင်ခြည်စွမ်းအင်သုံးလျှပ်စစ်ဓါတ်အားပေးစက်ရုံ အား အဆင့် (၄) ဆင့် ( (4) Phases) ဖြင့် တည်ဆောက်ရန် အကြံပေးခဲ့သောကြောင့် အဆိုပါအတိုင်းကောင်အထည်ဖော်သွားမည်ဖြစ်ပါကြောင်းတင်ပြအပ်ပါသည်။စုစုပေါင်း စီမံကိန်းကာလသည် (၄) နှစ်ဖြစ်ပါသည်။

တည်ဆောက်အကောင်အထည်ဖော်သွားမည့် အဆင့် (၄) ဆင့်မှာ-

| | | |
|---|---|---|
| ပထမအဆင့် | (၅၀) မဂ္ဂါဝပ် | (၁၂) လ |
| ဒုတိယအဆင့် | (၅၀) မဂ္ဂါဝပ် | (၁၂) လ |
| တတိယအဆင့် | (၅၀) မဂ္ဂါဝပ် | (၁၂) လ |
| စတုတ္ထအဆင့် | (၇၀) မဂ္ဂါဝပ် | (၁၂) လ |
| စုစုပေါင်း တပ်ဆင်အင်အားမှာ | (၂၂၀) မဂ္ဂါဝပ် (ဒီစီ) ဖြစ်ပါသည်။ | |

လျှို့ဝှက်

၂၆

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်ထောင်စုအစိုးရအဖွဲ့

နောက်ဆက်တွဲ (င)

စာအမှတ်၊ ၂၆ / ၂၅၇ / အဖရ (၈/၂၀၁၆)။

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ်လ ၁၀ ရက်။

အ မှာ စာ

အကြောင်းအရာ။ မကွေးတိုင်းဒေသကြီး၊ မင်းဘူးဒေသတွင် Green Earth Power (Thailand) Co., Ltd. က တည်ဆောက်မည့် (၁၇၀)မဂ္ဂါဝပ် နေရောင်ခြည်စွမ်းအင်သုံး ဓာတ်အားပေးစက်ရုံမှထွက်ရှိသော ဓာတ်အားကိုဝယ်ယူရန် ချုပ်ဆိုမည့် လျှပ်စစ်ဓာတ်အားဝယ်ယူမှု သဘောတူစာချုပ် (Power Purchase Agreement-PPA) လက်မှတ်ရေးထိုးရန်ကိစ္စကို "မူ" အားဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်း။

၁။ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၅ ရက် (ကြာသပတေး)နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၈/၂၀၁၆) မှတ်တမ်းကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်းပြန်ကြားရန်နှင့် ဌာနဆိုင်ရာ အရေးယူဆောင်ရွက်ချက်ကိုလည်း ပြန်လည်အစီရင်ခံတင်ပြရန် ဖြစ်ပါသည်။

ဇော်သန်းသင်း

အတွင်းရေးမှူး

ပြည်ထောင်စုဝန်ကြီး

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

၂၆။ မကွေးတိုင်းဒေသကြီး၊ မင်းဘူးဒေသတွင် Green Earth Power (Thailand) Co., Ltd. က တည်ဆောက်မည့် (၁၇၀)မဂ္ဂါဝပ် နေရောင်ခြည်စွမ်းအင်သုံးဓာတ်အားပေးစက်ရုံမှထွက်ရှိသောဓာတ်အားကိုဝယ်ယူရန်ချုပ်ဆိုမည့် လျှပ်စစ်ဓာတ်အားဝယ်ယူမှုသဘောတူစာချုပ် (Power Purchase Agreement-PPA) လက်မှတ်ရေးထိုးရန်ကိစ္စကို "မူ" အားဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်း။

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၈ ရက်နေ့စွဲပါ အမှာစာ အမှတ်၊ လျှပ်စစ်-၂ (မူဝါဒ-MEPE) (၂၅၃၂)/ ၂၀၁၆။ အမှာစာကို သဘောတူကြသည်။

ဆောင်ရွက်ရန်၊

လျှပ်စစ်စွမ်းအား။

လျှို့ဝှက်

မူဝါဒ လျှို့ဝှက်



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပြည်ထောင်စုရှေ့နေချုပ်ရုံး
နေပြည်တော်

စာအမှတ်၊ ၂(၅) ၅ - ၂၃ / နပတ(၁၃၃၉ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၃၀ ရက်

အကြောင်းအရာ။ **မင်းဘူး Solar Power ဓာတ်အားပေးစက်ရုံတည်ဆောက်ရန်အတွက် ဓာတ်အားဝယ်ယူရေး သဘောတူစာချုပ် (PPA) (မူကြမ်း) အပေါ် သဘောထားမှတ်ချက်များပေးနိုင်ပါရန်တင်ပြခြင်းကိစ္စ**

ရည်ညွှန်းချက်။ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ၇-၁၂-၂၀၁၅ ရက်စွဲပါစာအမှတ်၊ လျှပ်စစ်-၂/ (မူဝါဒ-မင်းဘူး) (၁၆၄၀၅)/ ၂၀၁၅

၁။ မကွေးတိုင်းဒေသကြီး၊ မင်းဘူးဒေသတွင် (170 MW AC) တပ်ဆင်စက်အင်အားရှိ Solar Power ဓာတ်အားပေးစက်ရုံတည်ဆောက်ရန်အတွက် မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းနှင့် Green Earth Power (Myanmar) Co., Ltd တို့အကြား ချုပ်ဆိုမည့် ဓာတ်အားဝယ်ယူရေး သဘောတူစာချုပ် (Power Purchase Agreement - PPA) (မူကြမ်း) အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ပေးပို့လာသော Power Purchase Agreement (မူကြမ်း)အား ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည် -

(က) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 1.1 Definitions ၌ Person ၏ အဓိပ္ပါယ်ဖွင့်ဆိုချက်တွင် Governmental Authority အားထည့်သွင်းထားသည်ကို တွေ့ရှိရပါသည်။ အဆိုပါ Governmental Authority ၏ အဓိပ္ပါယ်ကို သီးခြားဖွင့်ဆိုထားရှိပြီးဖြစ်ရာ နောင်ရှုပ်ထွေးမှုမဖြစ်ပေါ်စေရန် Person ၏ အဓိပ္ပါယ်ဖွင့်ဆိုချက်တွင် Governmental Authority အား ထည့်သွင်းရန်မသင့်ပ

လျှို့ဝှက်

Acer/DRWT/Green Earth Power (Myanmar) Co., Ltd (2)(28-12-2015)

ယူဆပါသည်။ ၁၉၇၃ ခုနှစ် စကားရပ်များအနက်အဓိပ္ပါယ်ဖွင့်ဆိုရေးဥပဒေ ပုဒ်မ ၅(က) (၂၄) ၌ "the expressions "Person" , "anyone", "individual" include any company, association, organization or body of individuals" ဟုပြဋ္ဌာန်းထားသည်ကို ဖော်ပြအပ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း) Section 2 ၊ အပိုဒ် 2.2 Construction and Licensing of the Facility ၊ အပိုဒ်ခွဲ 2.2.7 Handover of Transmission Facility ၏ အပိုဒ်ခွဲငယ် (c) ၌ New Transmission Facility အား MEPE သို့လွှဲအပ်ရာ၌ "one year warranty provided by the Seller or any preson contracted to contract or provide service in relation to the Transmission Facility." ဟု ဖော်ပြထား ပါသည်။ စာချုပ်(မူကြမ်း)၌ စာချုပ်ဝင်အဖြစ်မပါရှိသော third party တစ်ဦးဦးပေါ် စာချုပ်ပါစည်းကမ်းချက်များသည် စည်းနှောင်အားရှိမည် မဟုတ်ပါသောကြောင့် အဆိုပါအချက်အား ဌာနမှ ပြန်လည်စိစစ်သင့်ပါ သည်၊

(ဂ) စာချုပ်(မူကြမ်း) Section 2 ၊ အပိုဒ် 2.8 Financial Arrangements ပါ ကိစ္စရပ်များနှင့်စပ်လျဉ်း၍ ဘဏ္ဍာရေးဝန်ကြီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်သင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် 2.8 Financial Arrangements ၊ အပိုဒ်ခွဲ 2.8.8 တွင် Seller က တင်ပြသည့် Financing Document များကို MEPE အနေဖြင့် အပိုဒ်ခွဲ 2.8.4 စည်းကမ်းချက်များအတိုင်း အတည်ပြု သို့မဟုတ် အတည်မပြုကြောင်း အကြောင်းကြားခြင်းမရှိပါက MEPE က အတည်ပြုသည်ဟု မှတ်ယူရမည်ဖြစ်ကြောင်း ဖော်ပြထားသည်ကို ဌာနက သတိပြုသင့်ပါသည်၊

(င) စာချုပ်(မူကြမ်း) အပိုဒ် 4 Delivery of Electricity ၊ အပိုဒ်ခွဲ 4.3.3(ii) တွင် Seller က liquidated damages အဖြစ် MEPE သို့ပေးရမည့် အမြင့်ဆုံး ငွေကြေးပမာဏများကို ဖော်ပြထားရာ အဆိုပါပမာဏသည် လုံလောက်မှုရှိမရှိ၊ ဌာနက ပြန်လည်သတိပြုစိစစ်သင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း) Section 5 Tariffs ပါ Payment နှင့်စပ်လျဉ်း၍ ဘဏ္ဍာရေးဝန်ကြီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်သင့်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) Section 7 Default and Termination ၊ အပိုဒ် 7.1 Termination by the Seller ၊ အပိုဒ်ခွဲ 7.1.1 ၌ MEPE ၏ Event of Default ဟု မှတ်ယူမည့်အချက်များကို ဖော်ပြထားပါသည်။ အဆိုပါအချက်များ၌ အပိုဒ်ခွဲ 7.1.1(e) ၌ any material respect ဟုလည်းကောင်း၊ အပိုဒ်ခွဲ 7.1.1(h) နှင့် အပိုဒ်ခွဲ 7.2.1(g) တို့၌ material obligations ဟုလည်းကောင်း၊ ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ material respect နှင့် material obligations တို့သည် မည်သည့်ကိစ္စရပ်များဖြစ်ကြောင်း ဖော်ပြထားခြင်းမရှိ၍ နောင်အငြင်းပွားမှုမဖြစ်ပေါ်စေရေးအတွက် material respect နှင့် material obligation တို့၏ အဓိပ္ပါယ်အတိအကျကို ထည့်သွင်းဖော်ပြသင့်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း) အပိုဒ် 7 Default and Termination ၊ အပိုဒ်ခွဲ 7.1.2 တွင် MEPE သည် ယင်း၏ပျက်ကွက်မှုတစ်ရပ်ရပ်ကို သတ်မှတ်ကာလအတွင်း ကုစားခြင်းမရှိပါက Seller သည် ဤစာချုပ်အား ရပ်စဲပိုင်ခွင့်ရှိကြောင်း ဖော်ပြထားသည်ကို ဌာနက သတိပြုသင့်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 7.1.3 ၌ စာချုပ်အားအပိုဒ်ခွဲ 7.1.2 အရ ရပ်စဲခဲ့ပါက Schedule 19 (Termination) ကို ဆောင်ရွက်မည်ဖြစ်ကြောင်း ဖော်ပြထားရာ ဌာနအနေဖြင့် အဆိုပါအချက်များအား သတိပြုသင့်ပါသည်၊

(ည) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 7.6 Other Rights to Terminate စည်းကမ်းချက်တွင် အပိုဒ် 7 နှင့် အပိုဒ် 9.6 ပါကိစ္စရပ်များသည် စာချုပ်အား စာချုပ်ဝင်တစ်ဖက်က တစ်ဖက်သတ် [illegible]ခြင်း "unilaterally terminate" ကို စာချုပ်ဝင်နှစ်ဖက်သဘောတူ[illegible]ခြင်း၊ ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ အပိုဒ် 7 သည် Default and Termination စည်းကမ်းချက်ဖြစ်သော်လည်း အပိုဒ်ခွဲ 9.6 မှာ Termination Following Force Majeure စည်းကမ်းချက်ဖြစ်နေသည်ကို [illegible]ပါသည်။ မလွန်ဆန်နိုင်သောဖြစ်ရပ် တစ်ရပ်ရပ်ဖြစ်ပွားပါက စာချုပ်[illegible]နိုင်သည်ဟု ဖော်ပြခြင်းမှာ သင့်မြတ်မှုရှိသော်လည်း တစ်ဖက်[illegible]ကိုမူ လက်ခံရန်မသင့်ဟု ယူဆပါသည်။ သို့ပါ၍ ဌာနက ပြန်[illegible]ရန်ရှိပါသည်၊

(ဋ) စာချုပ်(မူကြမ်း) [illegible] Liquidated Damages for Delayed ၊ အပိုဒ်ခွဲ 8.3.1 တွင် [illegible]ပြည့်မြောက်သည့်နေ့အဖြစ် သတ်မှတ်ထားသည့်အတိုင်း ဖြစ်မ[illegible]အနေဖြင့် တစ်ရက်လျှင် US$ 150 ကို liquidated damage [illegible] MOEE သို့ပေးမည်ဖြစ်ကြောင်း ဖော်ပြထားရာ အဆိုပါငွေပမာဏ[illegible]မှုရှိ မရှိ ဌာနက ပြန်လည်သုံးသပ်သင့်ပါသည်၊

(ဌ) စာချုပ်(မူကြမ်း) [illegible] Force Majeure ၊ အပိုဒ်ခွဲ 9.11(d) တွင် "Change [illegible]" [illegible]ခြင်း၊ အပိုဒ်ခွဲ (e) တွင် failure or inability [illegible] that the Seller is the affected Party, a [illegible] commission of the Seller) to obtain

or renew any required Governmental Approval; ဟုလည်းကောင်း၊ တို့အား Force Majeure ၌ ပါဝင်ကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ အဆိုပါအချက်များသည် Force Majeure ၌ထည့်သွင်း၍ အခိုင်ပါယ်ဖွင့်ဆိုရန်မသင့်ပါသဖြင့် ပယ်ဖျက်သင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) Section 9 Force Majeure ၊ အပိုဒ်ခွဲ 9.1.1(g)တွင် ပြည်သူပိုင်သိမ်းယူခြင်း သို့မဟုတ် အတင်းအကြပ်သိမ်းယူခြင်းတို့ပါဝင်ကြောင်း ဖော်ပြထားပါသည်။ ဖွဲ့စည်းပုံအခြေခံဥပဒေပုဒ်မ ၃၆(ဃ)၌ "စီးပွားရေးဆိုင်ရာလုပ်ငန်းများကို နိုင်ငံပိုင်သိမ်းယူခြင်းမပြု" ဟုလည်းကောင်း၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂၈ ၌ "ပြည်ထောင်စုအစိုးရအဖွဲ့သည် ခွင့်ပြုမိန့်ဖြင့်ဖွဲ့စည်းသည့်စီးပွားရေးလုပ်ငန်းကို ပဋိညာဉ်စာချုပ်ပါ သက်တမ်း သို့မဟုတ် ယင်းသက်တမ်းကို တိုးမြှင့်ပေးလျှင် ယင်းသို့တိုးမြှင့်ပေးသည့်သက်တမ်းအတွင်း နိုင်ငံပိုင်သိမ်းယူခြင်းမပြုဟု အာမခံသည်" ဟု လည်းကောင်း ပြဋ္ဌာန်းထားသဖြင့် ယင်းအချက်တို့အား ထည့်သွင်းဖော်ပြရန် မသင့်ဟုသဘောရရှိပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် 9.1.2 Governmental Force Majeure အား အခိုပ္ပါယ်ဖွင့်ဆိုရာ၌ အပိုဒ် (b) တွင် "the occurrence of Force Majeure as described in any one or more of paragraphs (b) and (c) of the definition of Force Majeure where, ---------------- an act of War involving Myanmar (whether war has been delared or not) --------------- by a Governmental Authority or foreign entity); ဟု အခိုပ္ပါယ်ဖွင့်ဆိုထားပါသည်။ အဆိုပါအချက်များအား Governmental Force Majeure ၌ အခိုပ္ပါယ်ဖွင့်ဆိုခြင်းကို လက်ခံရန်မသင့်ပါသောကြောင့် ပယ်ဖျက်သင့်ပါသည်၊

(ဏ) စာချုပ်(မူကြမ်း) အပိုဒ် 9.4 Payment Rights and Obligations during Force Majeure ၊ အပိုဒ် 16 Billing and Payment ခေါင်းစဉ်ပါ ငွေကြေးဆိုင်ရာ စည်းကမ်းချက်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဘဏ္ဍာရေး ဝန်ကြီးဌာန၊ မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်တို့နှင့် ညှိနှိုင်းဆောင်ရွက်သင့် ပါသည်၊

(တ) စာချုပ်(မူကြမ်း) Section 9 Force Majeure ၊ အပိုဒ် 9.4 Payment Rights and Obligations during Force Majeure ၊ အပိုဒ်ခွဲ 9.4.2 ၌ Governmental Force Majeure ကြောင့် MEPE ၌ ထိခိုက်ခဲ့ပါက Facility မအောင်မြင်ခဲ့လျှင် MEPE သည် Force Majeure Grace Period အတွင်း Capacity Payments များကို ပေးချေရမည်ဖြစ်ကြောင်း ဖော်ပြထား ရာ ဌာနက လက်ခံနိုင်ခြင်း ရှိ မရှိ ပြန်လည်စိစစ်သင့်ပါသည်၊

(ထ) စာချုပ်(မူကြမ်း) Section 12 Limitation of Liability ၊ အပိုဒ်ခွဲ 12.2 Consequential Damages ၌ မှားယွင်းမှု၊ ပေါ့လျော့မှု၊ အပါအဝင်နှင့် လျှပ်စစ်စွမ်းအားသယ်ယူပို့ဆောင်ရန် သို့မဟုတ် ရောင်းချရန် ပျက်ကွက်မှုတို့ အပါအဝင်စာချုပ်၌ သတ်မှတ်သောဝတ္တရားများကို ဆောင်ရွက်ခြင်း သို့မဟုတ် မဆောင်ရွက်ခြင်းကြောင့် သွယ်ဝိုက်၍ဖြစ်ပေါ်လာသော ထိခိုက်နစ်နာမှု၊ နောက်ထပ်ထိခိုက်နစ်နာမှုများအတွက်မည်သည့်စာချုပ်ဝင်မျှ တစ်ဖက်စာချုပ်ဝင် အပေါ် တာဝန်မရှိစေရဟု ဖော်ပြထားပါသည်။ အဆိုပါအချက်အား လက်ခံရန် မသင့်ဟု ယူဆပါသောကြောင့် ပြန်လည်စိစစ်သင့်ပါသည်၊

(ဒ) စာချုပ်(မူကြမ်း) အပိုဒ် 17 Confidentiality and Announcements ၊ အပိုဒ်ခွဲ 17.1 တွင် လျှို့ဝှက်အဆင့်အဖြစ် သတ်မှတ်ထားသည့် သတင်းအချက် "confidential information" များကို စာချုပ်သက်တမ်းကုန်ဆုံး သို့မဟုတ် ရပ်စဲသည့်တိုင်အောင် ထိန်းသိမ်းရမည်ဖြစ်ကြောင်း ဖော်ပြထားရာ နောင်အငြင်း

ပွားမှုမဖြစ်ပေါ်စေရေးအတွက် စာချုပ်သက်တမ်းကုန်ဆုံး သို့မဟုတ် ရပ်စဲပြီး နောက် အချိန်ကာလမည်မျှအထိ ဆက်လက်ထိန်းသိမ်းရမည်ဖြစ်ကြောင်း တိကျစွာထည့်သွင်းဖော်ပြသင့်ပါသည်၊

(ဓ) စာချုပ်(မူကြမ်း) အပိုဒ် 20 Equity Undertaking ၊ အပိုဒ်ခွဲ 20.1 Restrictions on Transfer တွင် Seller အနေဖြင့် ယင်း၏ပိုင်ဆိုင်ခွင့် အကျိုးကျေးဇူးကို တတိယပုဂ္ဂိုလ်သို့ လွှဲပြောင်းခြင်းမပြုရန် သတ်မှတ်ထားသည့် အချိန်ကာလ (၄ နှစ် နှင့် ၆ နှစ်)တို့မှာ သင့်မြတ်မှုရှိ မရှိ ဌာနက ပြန်လည်စဉ်းစားသုံးသပ်သင့်ပါသည်၊

(န) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ 20.2 Qualifications to Equity Transfer Restrictions ၊ အပိုဒ်ခွဲငယ် 20.2.2 တွင် Seller သည် ယင်း၏ပိုင်ဆိုင်ခွင့် အကျိုးကျေးဇူးကို အခြားပုဂ္ဂိုလ်တစ်ဦးဦးထံသို့ လွှဲပြောင်းသည့်အခါ၊ ထိုသို့ လွှဲပြောင်းပေးခြင်းမပြုမီ (၁၀)ရက်ကြိုတင်၍ MEPE သို့ အကြောင်းကြားမည် ဖြစ်ကြောင်း၊ MEPE က ရက်ပေါင်း(၃၀)အတွင်း အဆိုပါတတိယပုဂ္ဂိုလ် (Transferee) အား လက်ခံသည် သို့မဟုတ် ငြင်းပယ်သည်ကို ပြန်လည် အကြောင်းကြားခြင်းမပြုပါက MEPE အနေဖြင့် လက်ခံသဘောတူသည်ဟု Seller က မှတ်ယူပြီး ရှေ့ဆက်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြထားသည်ကို ဌာနက သတိပြုသင့်ပါသည်၊

(ပ) စာချုပ်(မူကြမ်း) အပိုဒ် 21.4 Assignment ၊ အပိုဒ်ခွဲ 21.4.3 စည်းကမ်းချက်တွင် "Financing the Project" အတွက် Seller ၏အစုရှယ်ယာများကို shareholder က Security Interests အဖြစ်ထားရှိခြင်းသည် ပုဒ်မ 20 အား ချိုးဖောက်ခြင်းမဟုတ်ဟုလည်းကောင်း၊ Financing Documents ပါ စည်းကမ်းချက်အရ Financing Parties က Seller ၏ Shares ကို တတိယ ပုဂ္ဂိုလ်သို့ ရောင်းချ သို့မဟုတ် လွှဲပြောင်းခြင်းကို MEPE ၏ကြိုတင်ခွင့်ပြုမိန့်

ရယူရန်မလိုဘဲ ဆောင်ရွက်နိုင်သည်ဟုလည်းကောင်း ဖော်ပြထားရာ လက်ခံရန် မသင့်ဟု ယူဆပါသဖြင့် ဌာနက ပြန်လည်စိစစ်သင့်ပါသည်၊

(ဖ) စာချုပ်(မူကြမ်း)၌ စာချုပ်အား နှစ်ဦးနှစ်ဖက်ညှိနှိုင်းဆွေးနွေး၍ ပြင်ဆင်နိုင်မည်ဆိုသည့် စည်းကမ်းချက် (Renegotiation) ဖော်ပြထားခြင်းမရှိပါသဖြင့် ဌာနမှ ထည့်သွင်းဖော်ပြရန်ဖြစ်ပါသည်၊

(ဗ) စာချုပ်(မူကြမ်း) Schedule 2 ပါ ငွေပေးချေခြင်းများ၊ အခွန်နှင့်ဒဏ်ကြေးများနှင့်စပ်လျဉ်း၍ ဘဏ္ဍာရေးဝန်ကြီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်သင့်ပါသည်၊

(ဘ) စာချုပ်(မူကြမ်း)၌ စာချုပ်တွင်ပူးတွဲပါရှိသော Schedules များ၊ နောက်ဆက်တွဲများသည် ဤစာချုပ်၏တစ်စိတ်တစ်ဒေသဖြစ်သည်ဆိုသော အချက်အား ထည့်သွင်းဖော်ပြမထား၍ ဖော်ပြရန်လိုအပ်ပါသည်။

၃။ စာချုပ်(မူကြမ်း)ပါ လျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းနှင့် စပ်လျဉ်း၍ လျှပ်စစ်ဥပဒေပုဒ်မ ၁၁ အရ ခွင့်ပြုမိန့်ရရှိရန် ခွင့်ပြုမိန့်ထုတ်ပေးနိုင်သူထံ သတ်မှတ်ချက်များနှင့်အညီ လျှောက်ထားရန်လိုအပ်ပါသည်။ ထို့အပြင် အဆိုပါဥပဒေပုဒ်မ ၁၂ အရ ပြည်ထောင်စုက စီမံခန့်ခွဲခွင့်ရှိသည့် အကြီးစားလျှပ်စစ်ဆိုင်ရာလုပ်ငန်းများဖြစ်ပါက ခွင့်ပြုမိန့်ထုတ်ပေးနိုင်သူ ဝန်ကြီးဌာနသည် ပြည်တွင်းပြည်ပရင်းနှီးမြှုပ်နှံလုပ်ကိုင်ဆောင်ရွက်လိုသည့် မည်သည့်ပုဂ္ဂိုလ်၊ အဖွဲ့အစည်း ကိုမဆိုပြည်ထောင်စုအစိုးရအဖွဲ့၏ သဘောတူညီချက်ဖြင့် ခွင့်ပြုမိန့်ထုတ်ပေးနိုင်မည်ဖြစ်ပါသည်။

၄။ စာချုပ်(မူကြမ်း)ပါ လျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းနှင့်စပ်လျဉ်း၍ ၁၄-၈-၂၀၁၄ ရက်စွဲပါ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် ၅၀/ ၂၀၁၄ ဖြင့် ထုတ်ပြန်ခဲ့သော ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ချက်ရယူရန် လိုအပ်သည့် [illegible] လုပ်ငန်းအမျိုးအစားများ သတ်မှတ်ခြင်း၊ အမှတ်စဉ် ၄ ၌ ရေအားလျှပ်စစ်နှင့် [illegible]

လျှပ်စစ်ဓာတ်အားထုတ်လုပ်ခြင်းလုပ်ငန်း မဟာဓာတ်အားလိုင်းများတည်ဆောက်ခြင်းလုပ်ငန်းအား ဖော်ပြထားသည်ကို သိရှိနိုင်ရန်အတွက် ဖော်ပြအပ်ပါသည်။

၅။ စာချုပ်(မူကြမ်း)၌ Schedules 20 ခုအား ပူးတွဲဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ အဆိုပါ Schedule အချို့တွင် ကွက်လပ်များဖြင့်ဖော်ပြထားသည်ကို တွေ့ရှိရပေရာ စာချုပ်ချုပ်ဆိုချိန်၌ ပြည့်စုံစွာဖြည့်စွက်ပြီးဖြစ်ရန် လိုအပ်ပါသည်။

၆။ စာချုပ်(မူကြမ်း)၌ ပူးတွဲပါရှိသော Schedules များအနက် Schedule 8 Environmental, Social and Labour Requirementsl နှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရန်ဖြစ်ပါသည်။

၇။ စာချုပ်(မူကြမ်း) ၌ ပူးတွဲပါရှိသော Schedule 19 Termination တွင် ဖော်ပြထားသော အချက်များကို ဌာနအနေဖြင့် လက်ခံနိုင်ခြင်းရှိမရှိ ပြန်လည်စိစစ်ပြီးမှသာ လက်ခံသင့်ပါသည်၊

၈။ စာချုပ်(မူကြမ်း)တွင် ပူးတွဲပါရှိသော Schedule 20 Land Lease Agreement (မူကြမ်း)သည် ပုဂ္ဂလိကကုမ္ပဏီများဖြစ်သော AVA Capital Trading Ltd. (Lessor) နှင့် Green Earth Power (Myanmar) Co., Ltd (Lessee)တို့အကြား ချုပ်ဆိုမည်ဖြစ်ကြောင်း တွေ့ရှိရပါသည်။ အဆိုပါ Land Lease Agreement အား ပုဂ္ဂလိကကုမ္ပဏီအချင်းချင်းတို့အကြားတွင် ချုပ်ဆိုခြင်းသာဖြစ်၍ ပြည်ထောင်စုရှေ့နေချုပ်ရုံးအနေဖြင့် အစိုးရဌာနများမှ စာချုပ်ဝင်အဖြစ်ပါဝင်ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)များကိုသာ စိစစ်ပေးရန် တာဝန်ရှိကြောင်း ပြန်ကြားအပ်ပါသည်။

၉။ ဤ Power Purchase Agreement (မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိ

ပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်း ဆောင်ရွက်ရန် အကြံပြုပါသည်။

၁၀။ GEP (MYANMAR) Co., Ltd သည် ဥပဒေအရ တရားဝင်ဖွဲ့စည်းထားသည့် ကုမ္ပဏီဟုတ် မဟုတ် နှင့် စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိမရှိ၊ ငွေကြေး အင်အားပြည့်စုံမှုရှိမရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ် စသည်တို့အတွက် သက်ဆိုင်ရာ စာရွက်စာတမ်းများ တောင်းယူစိစစ်သင့်ပါ သည်။

၁၁။ ဤစာချုပ်(မူကြမ်း) ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန် အတွက် ဤရုံးသို့ စာချုပ်မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၁၂။ ဤအကြံပြုချက်ကို လျှို့ဝှက်အဆင့်သတ်မှတ်ဆောင်ရွက်ရန်ဖြစ်ပါသည်။

၁၁-၂-၂၀၁၅

( ကျော်ဆန်း )
ညွှန်ကြားရေးမှူးချုပ်(တာဝန်)

**လျှပ်စစ်စွမ်းအားဝန်ကြီးဌာန**

မိတ္တူ - ရုံးလက်ခံ / မျှောစာတွဲ



Acer/DRWT/Green Earth Power (Myanmar) Co., Ltd (2)(28-12-2015)

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြည်ထောင်စုရှေ့နေချုပ်ရုံး

နေပြည်တော်



စာအမှတ်၊ ၂ (၅) ၉ - ၂၆ / နပတ (၇၉၀)

ရက်စွဲ၊ ၂၀၁၄ခုနှစ်၊စက်တင်ဘာလ ၁၈ ရက်

အကြောင်းအရာ။ **မကွေးတိုင်းဒေသကြီး၊ မင်းဘူးဒေသတွင် (၂၂၀) မဂ္ဂါဝပ် သဘာဝဓာတ်ငွေ့နှင့် နေစွမ်းအင်သုံးဓာတ်အားပေးစက်ရုံစီမံကိန်းအတွက် လျှပ်စစ်စွမ်းအားဦးစီးဌာန နှင့် Green Earth Power (Thailand) Co., Ltd တို့အကြား လက်မှတ် ရေးထိုးမည့် သဘောတူစာချုပ် (MOA) (မူကြမ်း) အပေါ် သဘောထား မှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၏ ၂-၉-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၂/ GEP (၈စ) / (၀၈၇၅/ ၂၀၁၄)

၁။ လျှပ်စစ်စွမ်းအားဝန်ကြီးဌာနနှင့် Green Earth Power (Thailand) Co., Ltd တို့သည် Build, Operate and Transfer (BOT) စနစ်ဖြင့် နေစွမ်းအင်သုံးဓာတ်အားပေးစက်ရုံ တည်ဆောက်လည်ပတ်ဆောင်ရွက်မည့် MOA စာချုပ် (မူကြမ်း)အပေါ် သဘောထားမှတ်ချက် ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်(၁)ပါစာနှင့်အတူ ပူးတွဲပေးပို့လာသော MOA စာချုပ်(မူကြမ်း) ကို ဥပဒေရှုထောင့်မှစိစစ်၍ အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည်-

(က) MOA (မူကြမ်း) စာချုပ်ဝင်အပိုဒ်တွင် တစ်ဖက်စာချုပ်ဝင်ကုမ္ပဏီအား ကိုယ်စားပြုချုပ်ဆိုမည့်သူ၏ အမည်၊ ရာထူးတို့ကို ပြည့်စုံစွာ ဖြည့်စွက်ရန် လိုအပ်ပါသည်၊

လျှို့ဝှက်

Acer/D/UTZW/ Green Earth Power Co., Ltd (9-9-2014)doc

(ခ) MOA (မူကြမ်း) စာချုပ်ဝင်အပိုဒ်တွင် တစ်ဖက်စာချုပ်ဝင် Green Earth Power (Thailand) Company Limited ကို (GEP) ဟု သုံးနှုန်းမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။ သို့ရာတွင် MOA (မူကြမ်း)၏ စည်းကမ်းချက်များ၌ Project Company ဟုလည်းကောင်း၊ Project Developer ဟုလည်းကောင်း အမျိုးမျိုးသုံးနှုန်းထားသဖြင့် MOA စည်းကမ်းချက်များ ရှင်းလင်းမှုရှိစေရန် "GEP" ဟု တစ်ညီတစ်ညွတ်တည်းအသုံးပြုသင့်ပါသည်။ ဌာနမှ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဂ) MOA (မူကြမ်း) တွင် Project ကို မည်သူက မည်မျှရင်းနှီးမြှုပ်နှံမည်ကို ဖော်ပြထားခြင်းမရှိသဖြင့် စိစစ်ဖော်ပြသင့်ပါသည်၊

(ဃ) MOA (မူကြမ်း) Article 2.3 တွင် Power Plant အတွက် တည်ဆောက်ရေးကာလကို MOA လက်မှတ်ရေးထိုးပြီး (၃၆)လထက်မကျော်စေရန် ဖော်ပြထားပြီး၊ ယင်းအပိုဒ်ခွဲ၏ စာကြောင်း ၇ တွင် New Transmission Lines အတွက် အမှန်ကြန့်ကြာမည့်ရက်များကို Construction Period တွင် ထပ်မံတိုးမြှင့်မည့်သဘောသက်ရောက်နေသည်ဟု ယူဆ၍ ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(င) MOA (မူကြမ်း) Article 2.11 တွင် Project Company သည် ၎င်းအတွက် လိုအပ်မည့်မြေဧရိယာကို AVA Capital Trading Ltd နှင့် မြေငှားစာချုပ်ချုပ်ဆိုဆောင်ရွက်မည်ဟု ဖော်ပြထားပြီး Article 3.2(e) တွင် AVA Capital Trading Ltd ကို "an affiliated company of GEP" ဟု ဖော်ပြထားရာ AVA Capital Trading Ltd သည် စာချုပ်ဝင်မဟုတ်သဖြင့် ယင်းစည်းကမ်းချက်ကို ထည့်ခြင်းဖြင့် နောင်ရှုပ်ထွေးမှုပေါ်ပေါက်နိုင်သောကြောင့် ထည့်သွင်းရန်မသင့်ဟု ယူဆပါသည်။ ဌာနမှ စိစစ်သင့်ပါသည်၊

(စ) MOA (မူကြမ်း) Article IV Taxes နှင့် Duties ခေါင်းစဉ်အောက်ရှိကိစ္စရပ်များနှင့်စပ်လျဉ်း၍ ဘဏ္ဍာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ကို ရယူသင့်ပါသည်၊

(ဆ) MOA (မူကြမ်း) Article VII Dispute Settlement စည်းကမ်းချက်တွင် အငြင်းပွားမှုများကို စာချုပ်ဝင်နှစ်ဖက်သဘောတူသည့်နိုင်ငံတွင် UNCITRAL Rules ဖြင့် ဖြေရှင်းရန် ဖော်ပြထားပါသည်။ အငြင်းပွားမှုများကို UNCITRAL Rules ဖြင့် မြန်မာနိုင်ငံတွင် ဖြေရှင်းဆောင်ရွက်ရန် တစ်ဖက်စာချုပ်ဝင်များနှင့် ညှိနှိုင်းဖော်ပြသင့်ပါသည်၊

(ဇ) MOA (မူကြမ်း) Article 9.2 တွင် ဤ MOA (မူကြမ်း) သည် BOT စာချုပ်နှင့် Power Purchase Agreement စာချုပ်တို့ ချုပ်ဆိုပြီးသည့်အထိ တည်မြဲတည်ရှိနေမည်ဖြစ်ကြောင်း ဖော်ပြထားရာ MOA သက်တမ်းကာလအား တိကျစွာ ဖော်ပြသင့်ပါသည်၊

(ဈ) MOA (မူကြမ်း) Article 9.4 တွင် Project Developer သည် ၎င်း၏ ရင်းနှီးမြှုပ်နှံမှုသုံးသပ်ရေးကော်မတီမှ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်မရရှိပါက GEP ကုမ္ပဏီအား ဤ MOA မှ ရုပ်သိမ်းခွင့်ပြုကြောင်း၊ အဆိုပါ Project Developer သည် ဤ MOA အရ ပေါ်ပေါက်လာမည့် တာဝန်နှင့်အခွင့်အရေးများမှ ကင်းလွတ်ခွင့်ရမည်ဖြစ်ကြောင်း ဖော်ပြထားချက်များကို လက်ခံရန်သင့် မသင့်ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ည) MOA (မူကြမ်း) Article 9.5 တွင် MOA စာချုပ်ရုပ်စဲသွားသော်လည်း Article V တွင် ဖော်ပြထားသော "Confidentiality" စည်းကမ်းချက်များသည် နောက်ထပ်(၁)နှစ်အထိ ဆက်လက်အသက်ဝင်နေမည်ကို ဌာနအနေဖြင့် သတိပြုသင့်ပါသည်၊

(ဃ) MOA (မူကြမ်း) Article X Miscellaneous ခေါင်းစဉ်အောက်ရှိ စာချုပ်ဝင်များအကြား ဆက်သွယ်ရမည့်လိပ်စာများကို အပိုဒ်ခွဲ 10.1 စည်းကမ်းချက်အောက်တွင် တစ်ဆက်တည်းရေးသားဖော်ပြသင့်ပါသည်၊

(င) MOA (မူကြမ်း) Article 10.6 တွင် ယခု Project နှင့်စပ်လျဉ်း၍ သတင်းမီဒီယာများသို့ သတင်းထုတ်ပြန်ခြင်း၊ ကြေညာချက်ပြုလုပ်ခြင်းများအတွက် ကန့်သတ်ထားသည့် စည်းကမ်းချက်များကို ဖော်ပြခြင်းဖြစ်ရာ ယင်းစည်းကမ်းချက်များအား ဌာနအနေဖြင့် သတိပြုသင့်ပါသည်၊

(စ) MOA (မူကြမ်း) တွင် ကျွမ်းကျင်မှုကိစ္စရပ်များပါရှိ၍ လက်မှတ်ရေးထိုးခြင်း မပြုမီ ကျွမ်းကျင်သူများနှင့် ဦးစွာညှိနှိုင်းသင့်ပါသည်၊

(ဆ) လိုအပ်သောနေရာအချို့တွင် မင်နီဖြင့် ပြင်ဆင်၊ ဖြည့်စွက်ပေးလိုက်ပါသည်။

၃။ ယခု MOA (မူကြမ်း)သည် နေစွမ်းအင်သုံးဓာတ်အားပေးစက်ရုံစီမံကိန်းအတွက် ချုပ်ဆိုမည့် သဘောတူစာချုပ်ဖြစ်၍ ပြည်ထောင်စုလွှတ်တော်ဆိုင်ရာဥပဒေကို ပြင်ဆင်သည့် ဥပဒေ ပုဒ်မ ၂၁ တွင် လွှတ်တော်၏ အတည်ပြုချက်ဖြင့် ဆောင်ရွက်ခွင့်ရှိသည့်စာချုပ်များနှင့် သဘောတူညီချက်များ၊ ဇယား ၁၊ အမှတ်စဉ် ၁၁ ၌ အပိုဒ် ၁၁ အဖြစ် လျှပ်စစ်ဓာတ်အား စီမံကိန်းကြီးများကိစ္စဖြည့်စွက်ထားသည်ကို သိရှိနိုင်ရန်အတွက် ဖော်ပြအပ်ပါသည်။

၄။ ဥပဒေအရ ပုဂ္ဂလိကနှင့် သမဝါယမတို့အား သတ်မှတ်ခွင့်ပြုသော လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်းမှအပ အခြားလျှပ်စစ်ဓာတ်အား ထုတ်လုပ်ရေးလုပ်ငန်းသည် နိုင်ငံတော်ပိုင် စီးပွားရေးလုပ်ငန်းများဥပဒေပုဒ်မ ၃ အရ အစိုးရကသာ လုပ်ကိုင်ဆောင်ရွက်ခွင့်ရှိသည့် စီးပွားရေး လုပ်ငန်းဖြစ်ရာ ယင်းဥပဒေပုဒ်မ ၄ အရ အစိုးရအဖွဲ့၏ အမိန့်ကြော်ငြာစာဖြင့် ထုတ်ပြန်သော ခွင့်ပြုမိန့်ရယူရန် လိုအပ်ကြောင်း ဖော်ပြအပ်ပါသည်။

၅။ MOA (မူကြမ်း) ကို လက်မှတ်ရေးထိုးခြင်းမပြုမီ သက်ဆိုင်ရာ အထက် အဖွဲ့အစည်းများသို့ တင်ပြအတည်ပြုချက်ရယူရန် လိုအပ်မည်ဖြစ်ပါသည်။

၆။ MOA (မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်း အရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာ ရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့်မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၇။ Green Earth Power (Thailand) Co., Ltd သည် သက်ဆိုင်ရာနိုင်ငံ၏ ဥပဒေအရတရားဝင်ဖွဲ့စည်းထားသည့်ကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်ခွင့်နှင့် လုပ်ကိုင်နိုင်စွမ်းရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ် စသည်တို့ကို ကြိုတင်စိစစ်ရန်လိုအပ်မည်ဖြစ်ပါသည်။

၈။ MOA (မူကြမ်း) ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၉။ ဤအကြံပြုချက်ကို လျှို့ဝှက်အဆင့်သတ်မှတ်ဆောင်ရွက်ရန်ဖြစ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
( မေသီလင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ် )

**လျှပ်စစ်စွမ်းအားဝန်ကြီးဌာန**

မိတ္တူ - ရုံးလက်ခံ
- မျှောစာတွဲ



Acer/D/UTZW/ Green Earth Power Co., Ltd (9-9-2014)doc

လျှို့ဝှက်

၅၅/၁၃
၂၁-၃-၁၃

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**ပြည်ထောင်စုရှေ့နေချုပ်ရုံး**

**နေပြည်တော်**

စာအမှတ်၊ ၂(၅)၉ -၁၆ / နပတ (၂၀၄)

ရက်စွဲ၊ ၂၀၁၃ ခုနှစ် ၊ မတ်လ ၁၉ရက်

အကြောင်းအရာ။ **နေရောင်ခြည်စွမ်းအင်သုံး ဓာတ်အားပေးစက်ရုံတည်ဆောက်ရေး ဖြစ်မြောက်နိုင်စွမ်း လေ့လာမှုလုပ်ငန်း ဆောင်ရွက်ရန်အတွက် လက်မှတ်ရေးထိုးမည့် နားလည်မှုစာချွန်လွှာ (MOU) (မူကြမ်း) အပေါ်သဘောထားမှတ်ချက် တောင်းခံခြင်း**

ရည် ညွှန်း ချက် ။ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ ၇-၃-၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ၂/ GEP (၈၀) (၁၈၄ /၂၀၁၃)

၁။ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန၊ လျှပ်စစ်စွမ်းအားဦးစီးဌာနနှင့် ထိုင်းနိုင်ငံ Green Earth Power Co., Ltd. (GEP) တို့သည် မကွေးတိုင်းဒေသကြီး၊ မင်းဘူးမြို့တွင် နေရောင်ခြည်စွမ်းအင်သုံးလျှပ်စစ်ဓာတ်အားပေးစက်ရုံတည်ဆောက်ရေး ဖြစ်မြောက်နိုင်စွမ်းလေ့လာမှုလုပ်ငန်း ဆောင်ရွက်ရန်အတွက် လက်မှတ်ရေးထိုးမည့် Memorandum of Understanding (MOU) (မူကြမ်း) အပေါ် သဘောထားမှတ်ချက်ပေးနိုင်ပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာဖြင့် ပေးပို့လာသော MOU (မူကြမ်း) အား လေ့လာစိစစ်ရာ မင်းဘူးမြို့တွင်တစ်နှစ်လျှင် ယူနစ်သန်းပေါင်း(၃၅၀)ခန့် ထွက်ရှိမည့် နေရောင်ခြည်စွမ်းအင်သုံး လျှပ်စစ်ဓာတ်အားပေးစက်ရုံစီမံကိန်း ဖြစ်မြောက်နိုင်စွမ်းလေ့လာမှုလုပ်ငန်းကို ဆောင်ရွက်မည်ဖြစ်ကြောင်း၊ စီမံကိန်းကို JV သို့မဟုတ် BOT စနစ်ဖြင့်ဆောင်ရွက်မည်ဖြစ်ပြီး မြေအသုံးချခွင့်ရရှိရေး

လျှို့ဝှက်



၈၀၉၉၂
၁၁-၃-၁၃

အပါအဝင်ဆောင်ရွက်ရမည့် လုပ်ငန်းအစီအစဉ်များကိုဖော်ပြထားကြောင်း ၊ MOU မှာ လက်မှတ်ရေးထိုးသည့်နေ့မှ စတင်အာဏာသက်ရောက်မည်ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၃။ ရည်ညွှန်းချက်ပါစာဖြင့်ပေးပို့လာသော အင်္ဂလိပ်ဘာသာဖြင့် ပြုစုထားသည့် MOU (မူကြမ်း) ကို ဥပဒေရှုထောင့်မှ လေ့လာစိစစ်၍ အောက်ပါအတိုင်းသုံးသပ်အကြံပြုအပ်ပါသည်-

(က) MOU (မူကြမ်း) တွင် WHEREAS ပထမအပိုဒ်တွင် ဆောင်ရွက်မည့်စီမံကိန်းသည် Solar Power Plant ဖြစ်ကြောင်းဖော်ပြထားပြီး အပိုဒ် (1) တွင် အဆိုပါစီမံကိန်းအား Wind Power Project ဟု လည်းကောင်း၊ Wind farm ဟု လည်းကောင်း ဖော်ပြသုံးနှုန်းထား၍ စီမံကိန်းလုပ်ငန်းများကွဲလွဲနေမှုကို ဌာနမှပြန်လည်စိစစ်ဖော်ပြရန်ဖြစ်ပါသည်၊

(ခ) MOU(မူကြမ်း) တွင် ကွက်လပ်များပါရှိရာ စာချုပ်ချုပ်ဆိုသည့်အခါ ပြည့်စုံစွာ ဖြည့်စွက်ပြီးဖြစ်ရန်လိုအပ်ပါသည်၊

(ဂ) MOU (မူကြမ်း) အပိုဒ်(2) နှင့်(4) တို့တွင် ဌာနမှ စီမံကိန်းဆောင်ရွက်ရန်အတွက်လိုအပ်သော သတင်းအချက်အလက်၊ မြေနေရာ၊ သယ်ယူပို့ဆောင်ရေးနှင့် ဆောက်လုပ်ရေးပစ္စည်းများကို ကူညီပေးရန်ကိစ္စ၊ အခွန်အကောက်ကိစ္စ၊ ဒေသဆိုင်ရာအာဏာပိုင်များ နှင့်ပူးပေါင်းဆောင်ရွက်ရန်နှင့် ၎င်း၏ ဝန်ထမ်းများအတွက်လုံခြုံရေး စီစဉ်ပေးရန်ကိစ္စများပါရှိရာ အဆိုပါကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဝန်ကြီးဌာနများနှင့် ကြိုတင်ဆွေးနွေးပြီးသဘောတူညီချက်ရရှိရန် လိုအပ် မည်ဖြစ် ပါသည်၊

(ဃ) MOU(မူကြမ်း)အပိုဒ်(6) တွင် "If GEP fails to start implementation of the project exceeding 12 (twelve) months the ..... day of March, 2014 after signing of MOU" ဟူ၍ ဖော်ပြထားရာ

Implementation ဆိုသော စကားရပ်၌ Feasibility Study နှင့် Detailed Project Report ကိစ္စရပ်များပါဝင်ခြင်းရှိ မရှိ ရှင်းလင်းစွာဖော်ပြသင့်ပါသည်။ ထို့ပြင် GEP သည် MOUလက်မှတ်ရေးထိုးပြီးနောက်(၁၂)လကာလအထိစီမံကိန်းကိုစတင်အကောင်အထည်ဖော်နိုင်ခြင်းမရှိပါက ၄င်း၏စုဆောင်းရရှိသည့်အချက်အလက်များကို ဌာနသို့ ၂၀၁၄ ခုနှစ်၊ ဇွန်လ( )မတိုင်မီလွှဲအပ် ပေးရမည်ဟု ဖော်ပြထားသောကြောင့် ဌာနမှလက်ခံနိုင်ခြင်းရှိ မရှိ စဉ်းစား သင့်ပါသည်၊

(င) MOU (မူကြမ်း)တွင် MOU ၏ သက်တမ်းကို တိကျစွာသတ်မှတ်ဖော်ပြထားခြင်းမရှိ၍ တိကျစွာဖော်ပြရန်လိုအပ်ပါသည်။ ထို့အပြင် ယင်းသက်တမ်းကုန်ဆုံးပါက သက်တမ်းတိုးစာချုပ်ချုပ်ဆိုခြင်း မရှိပါက MOU သက်တမ်းကုန်ဆုံးကြောင်းစည်ကမ်းချက်ကို ထည့်သွင်းရန်လိုအပ်ပါသည်၊

(စ) MOU(မူကြမ်း)ကို မြန်မာ- အင်္ဂလိပ် နှစ်ဘာသာဖြင့် ချုပ်ဆိုမည်ဖြစ်ကြောင်းတွေ့ရှိရပါသည်။ ဌာနအနေဖြင့် ဘာသာပြန်ဆိုရန်လိုအပ်မှုရှိပါက အင်္ဂလိပ်ဘာသာဖြင့် ပြုစုစိစစ်ပြီးသော အပြီးသတ် MOU(မူကြမ်း) ကို မြန်မာဘာသာသို့ပြန်ဆို၍ အဆိုပါဘာသာပြန် MOU (မူကြမ်း) အား ပြည်ထောင်စုရှေ့နေချုပ်ရုံး၊ ဥပဒေများစိစစ်ရေးဆွဲရေးဌာနသို့ ဘာသာပြန်စိစစ်ရန် ပေးပို့နိုင်ပါကြောင်း ဖော်ပြအပ်ပါသည်။

(ဆ) လိုအပ်သောနေရာအချို့တွင် မင်နီဖြင့် အနည်းငယ်ပြင်ဆင်ပေးလိုက်ပါသည်။

၄။ ဖော်ပြပါ MOU (မူကြမ်း) ကို လက်မှတ်ရေးထိုးခြင်းမပြုမီ သက်ဆိုင်ရာ အထက်အဖွဲ့အစည်းများသို့ တင်ပြအတည်ပြုချက်ရယူရန် လိုအပ်မည်ဖြစ်ပါသည်။

၅။ ဖော်ပြပါ MOU (မူကြမ်း) ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်း ဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်း ဆောင်ရွက်ရန် အကြံပြုပါသည်။

၆။ GREEN EARTH POWER COMPANY LIMITED (THAILAND) သည် သက်ဆိုင်ရာနိုင်ငံ၏ဥပဒေအရ တရားဝင်ဖွဲ့စည်းထားသည့်ကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကိုလုပ်ကိုင်နိုင်ခွင့်နှင့်လုပ်ကိုင်နိုင်စွမ်းရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူ ဟုတ် မဟုတ် စသည်တို့ကို ကြိုတင်စိစစ်ရန် လိုအပ်မည်ဖြစ်ပါသည်။

၇။ ဤ MOU (မူကြမ်း) ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

(signature) ၁၉/၃/၂၀၁၃

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
( မေသီလင်း၊ ညွှန်ကြားရေးမှူး )

**လျှပ်စစ်စွမ်းအားဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

GREEN EARTH POWER (THAILAND) COMPANY LIMITED
63 Athenee Tower, 30th Floor, Suit 3006, Wireless Road,
Lumpini, Pathumwan, Bangkok 10330, Thailand
Tel +662 168 8168 Fax +662 168 8169

13 July 2016

CHAIRMAN
**MYANMAR INVESTMENT COMMISSION**
Yangon, the Republic of the Union of Myanmar

Dear Chairman:

**SUBJECT: MIC PERMIT APPLICATION FOR 220 MW SOLAR POWER PLANT PROJECT IN MINBU, MYANMAR**

Green Earth Power (Thailand) Co., Ltd. ("GEP") would like to respectfully submit to you our MIC application for the development and operations of the 220 MW solar power plant project in Minbu District, Magway Region ("Project"). We are honored to have the opportunity to participate in Myanmar's first large scale renewable energy power plant and would like to reiterate our strong commitment to the successful completion and operations of our solar power plant project.

GEP has entered into a Memorandum of Agreement with the Myanmar Ministry of Electric Power on 16th October 2014 and we have spent significant time since then to negotiate and finalize Myanmar's first solar power plant Power Purchase Agreement. In order to ensure that our solar power plant is feasible and acceptable to the Myanmar national grid system, we have spent over 2 ½ years since our Memorandum of Understanding signing date of 2nd May 2013 to engage in continued dialogue with the Ministry of Electric Power and present various presentations and discussions to assist the relevant parties in understanding the interconnection of our solar power plant to the National Grid. We would like to further add that our Feasibility Study was submitted in July 2013 along with our Environmental and Social

GREEN EARTH POWER (THAILAND) COMPANY LIMITED
63 Athenee Tower, 30th Floor, Suit 3006, Wireless Road,
Lumpini, Pathumwan, Bangkok 10330, Thailand
Tel +662 168 8168 Fax +662 168 8169

Impact Assessment Report submitted in December 2014. GEP would like to present to you that up to this point, all the relevant studies and project planning have been completed.

The Project is to be located in Sagu Township, Minbu District, Magway Region of Myanmar, which is 90 miles west of Naypyidaw. The project will have a total installed capacity of 220 MWdc which will produce 170 MWac, with an annual output of approximately 350 million kWh. Once complete, the Project will be able to power a total of 2 million households, which is significant given Myanmar's current energy needs. The project is to be built in four phases for a total construction time of 4 years. The phases will be built in 50 MW, 50 MW, 50 MW and 70 MW, respectively, with the construction time of each phase to be 12 months each. The Project is under a Built, Operate and Transfer (BOT) basis of which after the Operations Period, the project and the land lease rights are to be transferred to the Myanmar Electric Power Enterprise.

Renewable energy is clean energy in nature and is a sustainable source of energy unlike coal or natural gas. Solar power is not a limited natural resource and there are no negative environmental impacts. We, at GEP, have the belief that a large scale renewable energy project such as ours, can promote the widespread use of additional sources of renewable energy in Myanmar. Other than the benefits of sustainable energy, our project will provide the following benefits:

i) **Employment**: At the peak of our project construction, GEP and its contractors will require up to 400 laborers in form of both skilled and unskilled.

ii) **Knowledge Transfer**: Our solar power plant is technologically advanced and will be utilizing the latest equipment and technologies. The GEP personnel will be able to learn and adopt international practices and technologies during their employment.

GREEN EARTH POWER (THAILAND) COMPANY LIMITED
63 Athenee Tower, 30th Floor, Suit 3006, Wireless Road,
Lumpini, Pathumwan, Bangkok 10330, Thailand
Tel +662 168 8168 Fax +662 168 8169

iii) **Energy Security**: Our project with an installed capacity of 220 MWdc will be a significant contribution to Myanmar's electricity power shortages and promote further industrial development. Our electricity will be distributed directly to the National Grid where our produced power can reach households throughout the Country.

Green Earth Power (Thailand) has extensive experience in developing power projects in Southeast Asia and Japan, with past solar power plant development of over 40 MW in Japan and a current development pipeline of over 250 MW, which include its principals' involvement in biomass power projects in Japan and thermal power plant in Indonesia. Green Earth Power (Thailand) is the joint venture partner with Asahi Shokuhin Co., Ltd., one of the largest conglomerates in Japan that is focused in the foods and beverages and energy sectors, under Green Earth Power Japan Co., Ltd.

We would therefore like to submit the MIC application for the development of a world-class Solar Power Plant in Sagu Township, Minbu District, Magway Region. GEP has already started the access road construction and site clearing works along with the construction of a 1.3 mile In/Out 230 kV transmission line to connect to the Myanmar Electric Power Enterprise 230 kV transmission line. GEP only commits to the most advanced of technologies for efficient generation, thereby increasing the output and efficiency of power.

We look forward to continuing a close cooperation with you and hope that you will consider GEP as a long term partner in solving your long term power needs.

We stand ready to implement a fast tracked electricity generation project for you and the People of Myanmar.

GREEN EARTH POWER (THAILAND) COMPANY LIMITED
63 Athenee Tower, 30th Floor, Suit 3006, Wireless Road,
Lumpini, Pathumwan, Bangkok 10330, Thailand
Tel +662 168-8168 Fax +662 168-8169

Yours faithfully,

**GREEN EARTH POWER (THAILAND) CO., LTD.**

Green Earth Power (Thailand) Co., Ltd.

Supasit Pokinjaruras
Director

Thailand Office:
63 Athenee Tower, 30th Floor, Suit 3006,
Wireless Road, Lumpini, Pathumwan,
Bangkok 10330, Thailand

Direct: +662 168-8168

**PLEASE KINDLY CONTACT OUR MYANMAR OFFICE FOR ALL ENQUIRIES**

Myanmar Office:
Suite 213, 2nd Floor, Pearl Condo,
Kabar Aye Pagoda Road, Bahan Township
Yangon, Myanmar

Direct: +951 860-4660
Fax: +951 860-4670

**Form(1)**

**The Proposal Form of Investor/Promoter for the investment to be made in the Republic of the Union of Myanmar**

To

**Chairman**
**Myanmar Investment Commission**

Reference No.
Date.

I do apply for the permission to make investment in the Republic of the Union of Myanmar in accordance with the Myanmar Foreign Investment Law by furnishing the following particulars:

1. The Investor's or Promoter's:-
   - (a) Name: Mr. Supasit Pokinjaruras
   - (b) Father's Name: Mr. Satawat Skontanarak
   - (c) ID No. / National Registration Card No./Passport No.: AA2417967
   - (d) Citizenship: Thai
   - (e) Address:
     - (i) Address in Myanmar: Suite 213, Pearl Condo, Kabar Aye Pagoda Road, Bahan Yangon, The Republic of the Union of Myanmar.
     - (ii) Residence abroad: 63 Athenee Tower, 30th Floor, Suit 3006, Wireless Road, Lumpini, Pathumwan, Bangkok 10330, Thailand.
   - (f) Name of principle organization: Green Earth Power (Thailand) Company Limited
   - (g) Type of business: Industrial Business
   - (h) Principle company's address: 63 Athenee Tower, 30th Floor, Suit 3006, Wireless Road, Lumpini, Pathumwan, Bangkok 10330, Thailand.

2. If the investment business is formed under Joint Venture, partners" :-
   - (a) Name
   - (b) Father's Name
   - (c) ID No. / National Registration Card No./Passport No.
   - (d) Citizenship
   - (e) Address:
     - (i) Address in Myanmar
     - (ii) Residence abroad

(f) Parent company ______________________

(g) Type of business ______________________

(h) Parent company's address ______________________

______________________

**Remark:** The following documents need to attach according to the above paragraph (1) and (2) :-

(1) Company registration certificate (copy): ***(Please refer to Section 20)***

(2) National Registration Card (copy) and passport (copy): ***(Please refer to Section 19 )***

Evidences about the business and financial conditions of the participants of the proposed investment business; ***(Please refer to section 20)***

3. Type of proposed investment business:-

(a) Manufacturing ______________________

(b) Service business related with manufacturing ______________________

(c) Service ______________________

(d) Others Develop and operate 170 MW AC Solar Power Plant

**Remark:** Expressions about the nature of business with regard to the above paragraph(3)

4. Type of business organization to be formed :-

(a) One hundred percent 100% Foreign Owned

(b) Joint Venture:

(i) Foreigner and citizen ______________________

(ii) Foreigner and Government department/organization ______________________

(c) By contractual basis:

(i) Foreigner and citizen ______________________

(ii) Foreigner and Government department/organization ______________________

______________________

**Remark:** The following information needs to attach for the above Paragraph (4) :-

(i) Share ratio for the authorized capital from abroad and local, names, citizenships, addresses and occupations of the directors; ***(Please refer to Section 17)***

(ii) Joint Venture Agreement (Draft) and recommendation of the Union Attorney General Office if the investment is related with the State;

(iii) Contract (Agreement ) (Draft) ***(Please refer to Section 24, 25 and 26)***

5. Particulars relating to company incorporation

| | | |
|---|---|---|
| (a) | Authorized capital | USD 500 million |
| (b) | Type of share | Ordinary share USD 1 each |
| (c) | Number of shares | 500 million shares |

**Remark:** Memorandum of Association and Articles of Association of the Company shall be submitted with regard to above paragraph 5. ***(Please refer to Section 18)***

6. Particulars relating to capital of the investment business

| | | | USD (Million) |
|---|---|---|---|
| (a) | Amount/percentage of local capital to be contributed | | 0 |
| (b) | Amount/percentage of foreign capital to be brought in | Share Capital | 87.95 |
| | | Loan | 209.05 |
| | | **Total** | **297.00** |

(c) Annually or period of proposed capital to be brought in
***(Please refer to Annex 1)***

| | | |
|---|---|---|
| (d) | Last date of capital brought in | April 30, 2020 |
| (e) | Proposed duration of investment | 30 years |
| (f) | Commencement date of construction | Upon MIC approval with PPA in place |
| (g) | Construction period | 48 months (4 phases x 12 months per phases) |

**Remark:** Describe with annexure if it is required for the above Para 6 (c)

7. Detail list of foreign capital to be brought in-

| | | Foreign Currency USD (Million) | Equivalent Kyat (Million) |
|---|---|---|---|
| (a) | Foreign currency (Type and amount) | 74.25 | 96,525 |
| (b) | Machinery and equipment and value (to enclose detail list)* | 222.75 | 289,575 |
| (c) | List of initial raw materials and value (to enclose detail list) | - | - |

Notes: * This will be imported and paid by the GEP (Myanmar) Ltd.
GEP ( Myanmar) Ltd will use equity contribution and loan to finance for the M&E Capex

| | | |
|---|---|---|
| (d) Value of licence, intellectual property, industrial design, trade mark, patent rights,etc. | - | - |
| (e) Value of technical know-how | - | - |
| (f) Others | - | - |
| **Total** | 297.00 | 386,100 |

**Remark :** The evidence of permission shall be submitted for the above para 7 (d) and (e).

Detail of foreign capital to be brought in is based on Bill of Quantities

*Note: 1US$ = 1,300 Kyats ***(Please refer to Annex 3 and Section 29)***

8. Details of local capital to be contributed-

| | **Kyat (Million)** |
|---|---|
| (a) Amount | - |
| (b) Value of machinery and equipment (to enclose detail list) | - |
| (c) Rental rate for building/land | - |
| (d) Cost of building construction | - |
| (e) Value of furniture and assets (to enclose detail list) | - |
| (f) Value of initial raw material requirement (to enclose detail list) | - |
| (g) Others | - |
| **Total** | |

9. Particulars about the investment business-

(a) Investment location(s)/place

Sagu Township, Minbu District, Magway Region, The Republic of the Union of Myanmar.

(b) Type and area requirement for land or land and building

(i) Location Sagu Township, Minbu District, Magway Region, The Republic of the Union of Myanmar.

(ii) Number of land/building and area 6 Buildings in 700 Acres

(iii) Owner of the land

(aa) Name/company/department AVA Capital Trading Company Limited

(bb) National Registration Card No. 2377/2012-2013

(cc) Address 123(A) Shwegonedine Road, Bahan Towership, Yangon, Myanmar

(iv) Type of land LR-105

(v) Period of land lease contract 30 years with extension option

(vi) Lease period 30 Years (from May 2017 to Apr 2047, according to PPA)

(vii) Lease rate

(aa) Land Lease Premium -Total USD 2,000,000 (according to land lease agreement)

(bb) Building

(viii) Ward Minbu District,

(ix) Township Sagu Township

(x) State/Region Magway Region

(xi) Leesee

(aa) Name/company/department GEP (Myanmar) Company Limited

(bb) Father's Name

(cc) Citizenship

(dd) ID No. / Passport No.

(ee) Residence Address Suite 213,2nd Floor,Pearl Condo, Kabar Aye Pagoda Road, Bahan Township, Yangon, The Republic of the Union of Myanmar

**Remark:** Following particulars have to enclosed for above Para 9(b)

(i) to enclose land map, land ownership and ownership evidances; ***(Please refer to Section 28 and 30)***

(ii) draft land lease agreement, recommendation from the Union Attorney General Office if the land is related to the State; ***(Please refer to Section 27)***

(c) Requirement of building to be constructed;

(i) Type / number of building Total 6 buildings (Control building, Switchgear building, Administration building, Warehouse/Maintenance building, Guardhouse (main gate) building, Employees housing quarters)

(ii) Area 700 Acres

(d) Product to be produced / Service

(1) Name of product Electricity Units

(2) Estimate amount to be produced annually Average 300 million kWh/year

(3) Type of service

(4) Estimate value of service annually

**Remark:** Detail list shall be enclosed with regard to the above para 9(d). ***(Please refer to Annex 2)***

(e) Annual requirement of materials / raw materials

**Remark:** According to the above para 9(e) detail list of products in terms of type of products, quantity, value, technical specifications for the production shall be listed and enclosed.

(f) Production system Solar Photovoltaic System

(g) Technology Polycrystalline PV module/ Central Grid-Connected Inverter

(h) System of sales Connect to National Grid at 230kV Transmission Line Network

(i) Annul fuel requirement N/A

(j) Annual electricity requirement Approximately 0.24% of its own generated load (or 730,000 kWh/year)

(k) Annual water requirement 43,800 Cubic Meters/year
(to prescribe daily requirement, If any)

10. Detail information about financial standing -

(a) Name Green Earth Power (Thailand) Company Limited

(b) ID No. / National Registration Card No./Passport No. 0 10 5528 015 200

(c) Bank Account No. 787-2-18010-3

**Remark:** To enclose bank statement from resident country or annual audit report of the principle company with regard to the above para 10. ***(Please refer to Section 21)***

11. Number of personnel required for the proposed economic activity:-

(a) Employment from local (117) No. (100%)

(b) Required Technicians and Executive from board (-) No. (0%)
(Engineer, QC, Buyer, Management, etc. based on the nature of business and required period)

**Remark:** As per para 11 the following information shall be enclosed:-

(i) Number of personnel, occupation, salary, etc; ***(Please refer to Section 31)***

(ii) Social security and welfare arrangements for personnel; ***(Please refer to Section 31)***

(iii) family accompany with foreign employee;

12. Particulars relating to economic justification:-

| | | Foreign Currency | Equivalent Estimated Kyat |
|---|---|---|---|
| (a) | Annual income | *Please refer to Annex 5* | |
| (b) | Annual expenditure | *Please refer to Annex 5* | |
| (c) | Annual net profit | *Please refer to Annex 5* | |
| (d) | Yearly investments | *Please refer to Annex 1* | |
| (e) | Recoupment period | *Please refer to Annex 9* | |
| (f) | Other benefits (to enclose detail calculations) | *Please refer to Annex 10* | |

13. Evaluation of environmental impact:- ***(Please refer to Section 14)***
    - (a) Organization for evaluation of environmental assessment;
    - (b) Duration of the evaluation for environmental assessment;
    - (c) Compensation programme for environmental damages;
    - (d) Water purification system and waste water treatment system;
    - (e) Waste management system;
    - (f) System for storage of chemicals;

14. Evaluation on social impact assessments; ***(Please refer to Section 14)***
    - (a) Organization for evaluation of social impact assessments;
    - (b) Duration of the evaluation for social imp[act assessment;
    - (c) Corporate social responsibility programme;

Green Earth Power (Thailand) Co., Ltd.

Signature ______________

Name Mr. Supasit Pokinjaruras

Designation Director of Green Earth Power (Thailand)

